http://arakanindobhasa.blogspot.com/



ဓအောင်မြေသာစည်စာစဉ်(၁၄)

သံတွဲမြို့ အောင်မြေသာစည်ဆရာတော်

# ဓညဝတီ – အသျှင်ကုသလ

(ငွေသဇင်)

စီရင်ရေးသားအပ်သော

# ရခိုင်တို့၏ ပဌမသဂီယနာတင် သမိုင်း

ဓညဝတီ - အသျှင်ကုသလ (ငွေသဇင်) ရခိုင်တို့၏ ပဌမသဂီယနာတင်သမိုင်း

## ရက္ခ မဏ္ဍိုင်

အမျိုးဂုဏ်ရောင်၊ နေတန်ဆောင်သို့
ထွန်းပြောင်အလှ၊ ရက္ခမဏ္ဍိုင်
ရခိုင်လူမျိုး၊ ကိုးသည့်ဗုဒ္ဓ
ထွန်းပသာသနာ၊ သဒ္ဓါတင့်ဆန်း
ပွင့်လန်းစာပေ၊ ရှေးမှေ့ထိန်းသိမ်း
မတိမ်းအယူ၊ အလှူဒါန
သီလ,ဘာဝနာ၊ သုံးဖြာသဒ္ဓမ္မ
နေ့-ညမပြတ်၊ မလပ်အားထုတ်
ကြိုးကုတ်စီးပွား၊ စိတ်ထားဖြူစင်
မှန်လျှင်မှန်ကြောင်း၊ မကောင်းတွင်းဘွမ်း
ရှိုးစင်းစကား၊ ဝါကြွားမည့်စ်
ကောက်ကျစ်မပြု၊ ယခုထက်တိုင်
ရခိုင်တို့သွေး၊ ရဲတွေးနီတျာ
သံထက်မာသည်၊
ကမ္ဘာတည်သရွေ့ရှိမည်တည်း။ ။

ငွေသဇင်(သံတွဲ)

၃-၂-၂၀၀၀

http://arakanindobhasaa.blogspot.com/

## ဝေသာလီဘုရင် ဒွေ့င်စန္ဒြားသို့

ဝေသာလီ နေတစ်ခေတ်ဆီသို့
ပေစာစီ ရွှေကညစ်ရယ်နဲ့
ဖွေလှစ်ကာ စာပန်းချီချဲ့ရင်ဖြင့်
သီဖွဲ့၍ ဘယ်မကုန်။

ဝေသာလီဘုရင် ဒွေ့င်စန္ဒြားမှာလ
ဘုန်း-အား ထိန်ထိန်ဖြာခဲ့
ဝတီမှာ နတ်သိကြားလိုပ
မြတ်ဘုရား သာသနာကိုဖြင့်
စေတနာ သဒ္ဓါတိုးပါလို့
ပြည်ရွာမှာ ဘာသာမညှိုးရအောင်
ယေဓမ္မာ ဂါထာထိုးတဲ့ပြင်
အမျိုးဂုဏ် ဇမ္ဗူမှာကျူးရင့်စေဖို့
စတူပါ စေတီထူးကိုဖြင့်
ဖြန့်ဖြူးခဲ့ပုံ။

ဘုရား့ပုထိုး ဂူရုံတွေပေါ်တဲ့ပြင်
ဆူညံ့ဝေ ခေါင်းလောင်းသံမပြတ်ပေဘု
ကျောင်း့ကန့်ဇရပ် ပေစာတိုက်တွေကလည်းအုံ့ပေစွ
ဝေဖြာလိုက်ပါဘိ ထေရ်သံဃာစုံ
ဝေသာလီပုံရဲ့ရှုမြင်ခန်း။

ယဉ်ကျေးမှု တုမယှဉ်သာပဲ့
အနုပညာ ပြည်မဆုံတာကြောင့်
ဝေဖြန့်ကာ စေတနာလှိုင်ခဲ့
ပြည်တကာ နိုင်ငံအများရယ်က
ဆန်စပါး ဥစ္စာအဖုံဖုံနဲ့
ကုန်မျိုးစုံ ဆက်သွယ်ကြတဲ့ပြင်
ရောင်းဝယ်သူ နောက်ပြည်သားတွေနဲ့
ကျောက်လှေကား နာမည်ကျော်ခဲ့
ရာသီပေါ် ပွဲတော်မလပ်ငဲ့ပြင်
ကျော်ထပ်တဲ့ ဝေသာလီမို့
ပြည်ရွာတည် ဘုရင်ထူးကိုလ
ဦးညွှတ်လို့မှန်း။ ။

ငွေသဇင် (သံတွဲ)
ရခိုင်မဂ္ဂဇင်း ဝေသာလီအထူးထုတ်
အမှတ်-၁၇/၁၉၉၅-ခု။

KMT

မဟာသက္ကရာဇ် ၁၂၃ - ခု၊ ဘီစီ - ၅၆၉ တွင် ဗုဒ္ဓဘုရားရှင်က ရခိုင်ဘုရင် စန္ဒာသူရိယမင်းအား
တရားဟောကြား၍နေဟန် ကျောက်ဆစ်လက်ရာ၊ ကျောက်တော်တောင်မှရရှိသည်။



အောင်မြေသာစည်စာစဉ်(၁၄)

ဒွါရာဝတီ - အသျှင်ဇဂုသဘလ
(ငွေသဖင်)

# ရခိုင်တို့၏ ပဌမသင်္ဂါယနာတင် သမိုင်း



http://arakanindobhasa.blogspot.com/

Ven. Eindobhasa

2500
15-12-2013


အောင်မြေသာစည် စာစဉ် (၁၄)

သံတွဲမြို့ အောင်မြေသာစည်ဆရာတော်

# ဒွါရာဝတီ - အသျှင်ကုသလ

(ငွေသဇင်)



စီရင်ရေးသားအပ်သော



# ရခိုင်တို့၏ ပဋ္ဌမသင်္ဂါယနာတင် သမိုင်း



http://arakanindobhasaa.blogspot.com/


အောင်မြေသာစည် စာပေ

မင်းဗာကြီးလမ်း၊ ဒွါရာဝတီမြို့သစ်၊
သံတွဲမြို့ ရခိုင်ပြည်နယ်။
ဖုန်း - ၀၉ - ၈၅၁၅၄၆၆၊ ၀၄၃ - ၆၅၃၈၆

http://arakanindobhasa.blogspot.com/


ပုံနှိပ်မှတ်တမ်း

| | | |
|---|---|---|
| ထုတ်ဝေသည့်အကြိမ် | - | ပထမအကြိမ် |
| ထုတ်ဝေသည့်ကာလ | - | ဒီဇင်ဘာလ၊ ၂၀၁၃ ခုနှစ် |
| ကွန်ပျူတာစာစီ | - | ကြယ်ပွင့် |
| မျက်နှာဖုံးဒီဇိုင်း | - | မိုးထက်မိုး (Cartoon Care Studio) |
| အဖုံး၊အတွင်းဖလင် | - | KABAOO |
| စာအုပ်ချုပ် | - | ဂုဏ်မာန် |
| အတွင်းပုံနှိပ်နှင့် | - | ဦးကျော်ယဉ် |
| မျက်နှာဖုံးပုံနှိပ် | - | ဇမ္ဗူမော်ပုံနှိပ်တိုက် အမှတ် ၂၈၄၊ ၃၉လမ်း(ထက်) ရန်ကုန်။ |
| ထုတ်ဝေသူ | - | ဒေါ်မျိုးမျိုးလတ် ရွှေခေတ်စာပေ အမှတ် ၂၁၊ ဒါနလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်။ |
| အုပ်ရေ | - | ၁၀၀၀ |
| တန်ဖိုး | - | ၂၅၀၀ ကျပ် |

ထုတ်ဝေသည့် စာအုပ်ကတ်တလောက်အညွှန်း (CIP)

၂၉၄. ၃

**ဒွါရာဝတီ-အသျှင်ကုသလ (ငွေသဇင်)**

ရခိုင်တို့၏ပဋ္ဌမသင်္ဂါယနာတင်သမိုင်း / ဒွါရာဝတီ-အသျှင်ကုသလ(ငွေသဇင်) - ရန်ကုန်။

ရွှေခေတ်စာပေ၊ ၂၀၁၃။

၁၆၆ - စာ။ ၁၃ စင်တီမီတာ × ၂၀ စင်တီမီတာ

(၁) ရခိုင်တို့၏ ပဋ္ဌမသင်္ဂါယနာတင်သမိုင်း




ရက္ခပူရ ဒွါဒသရာသိဋ္ဌိကာကျမ်းနှင့်
ကဗျာ့ဥယျာဉ်အလင်္ကာကျမ်းပြုဆရာတော်
ဒွါရာဝတီ - အသျှင် ကုသလ (ငွေသဇင်)
(ပန်းချီပညာသျှင် မောင်မောင်စော ( ရခိုင်ညွှန့်ဖူး) ၏
အမှတ်တရ မှင်ခြစ်လက်ရာ။ ခရစ် - ၂၀၁၀။)

http://arakanindobhasaa.blogspot.com/

http://arakanindobhasa.blogspot.com/

## ငါရို့ အသျှင်ကုသလ

ငါရို့အသျှင်
ငွေသဇင်
မျိုးစောင့်ဘွဲ့လှ
ကုသလ။
မြင့်မြတ်တည်ကြည်
နလုံးရည်နန့်
အမျိုးဘာသာ
သာသနာအကျိုး
ဖွံ့ဖြိုးတိုးအောင်
ခံယူချက်မက္ကိုင်
ကြံ့ကြံ့ခိုင်လို့
ရက်ျှင်နာမ
ဘွဲ့မည်လှကို
စည်ပင်ဖွံ့ဖြိုး
အလှတိုးအောင်
စွမ်းဆောင်လမ်းပြ
မျိုးစောင့်ဘွဲ့လှ
ငါရို့အသျှင်ကုသလ။ ။

မောင်မောင်စော(ရခိုင်ညွန့်ဖူး)
၈.၂.၂၀၁၀

## မာတိကာ

အခန်း (၁)



အခန်း (၂)



http://arakanindobhasaa.blogspot.com/

http://arakanindobhasa.blogspot.com/

အခန်း (၃)

ရခိုင်တို့၏ ပဌမသင်္ဂါယနာတင်သမိုင်း

(အေဒီ-၆၃၅-မှ-၆၃၈-ထိ)



အခန်း (၄)

နောက်ဆက်တွဲ



http://arakanindobhasaa.blogspot.com/



ရခိုင်ဝေသာလီခေတ် ဗုဒ္ဓရုပ်ပွားတော် (ကြေးဝါ)

ဇေအာင်မြေသာစည်



ဓညဝတီမြို့ ကောင်းကင်ဓာတ်ပုံ








ဓညဝတီမြို့ မြေပုံ



ရခိုင်ဝေသာလီမြို့ကောင်းကင်ဓာတ်ပုံ

အောင်မြေသာစည်






ရခိုင်ဝေသာလီမြို့မြေပုံ

အောင်မြေသာစည်



ရခိုင်ဝေသာလီခေတ် ကြေးစေတီ

အောင်မြေသာစည်



မန္တလေးရောက် ရခိုင်တို့၏
မဟာမုနိပုံတော်

(တတိယဓညဝတီခေတ် လက်ရာ. ဘီစီ-၅၆၉)



စကြာမုနိ ကြေးသွန်းရုပ်ပွားတော်

"သက္ကရာဇ် - ၅၂၀၊ သူရိယကုလ ကောင်းမှုတော်" ဟူ၍ ဘုရားနောက်ကျော၌ ပြုပ်မှီအက္ခရာဖြင့် စာတမ်းရေးထိုးပါရှိသည်။

(တတိယညေဝတီခေတ်လက်ရာ - ဘီစီ - ၁၀ - )



## ဝေသာလီဘုရားကြီး

မဟာတိုင်းစန္ဒြားမင်းနှင့် မိဖုရား သုပဘာဒေဝီတို့ကောင်းမှု။
(အေဒီ-၃၂၇-မှ-၃၈၂-ထိ)

(ဘုရားရော ပလ္လင်ကိုပါ ကျောက်တစ်လုံးတည်းကို ထုဆစ်ထားသည်။ ဝေသာလီခေတ်လက်ရာ အမှန်ဖြစ်သော်လည်း မျက်လုံးနှင့် နဖူးသင်းကျစ်တော်များကို ပြုပြင်ထားသဖြင့် မူလရှေးဟောင်းလက်ရာများ ပျက်စီးနေသည်။)



ရခိုင်ဝေသာလီခေတ် ဗုဒ္ဓရုပ်ပွားတော်
ကျောက်ဆစ်လက်ရာ

(မြောက်ဦးမြို့အနီး ငွေတောင်ပေါက်တံတား အနီးကရရှိကြောင်း သိရှိရသည်။
ယခုအခါ သျှစ်သောင်းပုထိုးတော်ကြီး အတွင်း၌ ပူဇော်ထားရှိသည်။)



ရခိုင်ဝေသာလီခေတ် ကြေးဆီမီးခွက်

ဆီမီးခွက်ခုံ၏ ခါးလည်အထက်ပိုင်း၌ "အာယနာကောင်းမှုတော်" ဟူ၍
ရခိုင်အက္ခရာဖြင့် စာတမ်းရေးထိုးပါရှိသည်။

အောင်မြေသာစည်

# ရခိုင်ဝေသာလီခေတ်
# စတူပါကျောက်စေတီငယ်



စတူပါအောက် လေးထောင့်ကွက်တွင် ငါးရာစု အေဒီ သုံး အက္ခရာမျိုးနှင့် ရေးထိုးထားသော ယေဓမ္မာဂါထာပါရှိသည်။ ဤကဲ့သို့သော ကျောက်စေတီငယ်မျိုးသည် ရခိုင်ပြည် နေရာ အနှံ့အပြားတွင် ရှိနေပါသေးသည်။







ရခိုင်စာပေ မီးရှူးတန်ဆောင် အာနန္ဒစန္ဒြကျောက်စာ တစ်စိတ်တစ်ပိုင်းပုံ



ဝေသာလီမင်းတစ်ပါး၏ မြေလှူအမိန့် မှတ်တမ်း ကြေးနီပြားစာ(မျက်နှာဘက်)







ဝေသာလီမင်းတစ်ပါး၏ မြေလှူအမိန့် မှတ်တမ်း ကြေးနီပြားစာ(ကျောဘက်)





သက္ကဋ္ဌဘာသာဖြင့် ရေးထိုးထားသော
ရခိုင်ဝေသာလီခေတ် ခေါင်းလောင်းစာ

အောင်မြေသာစည်







သက္ကဋ္ဌဘာသာဖြင့် ရေးထိုးထားသော
ရခိုင်ဝေသာလီခေတ် ခေါင်းလောင်းစာ

အောင်မြေသာစည်

# စာပါသော ရခိုင်ဝေသာလီဒင်္ဂါးတချို့



အေဒီ-၄၈၃ စန္ဒြပန္နဒင်္ဂါး



အေဒီ-၄၈၉ ဘူမိစန္ဒြဒင်္ဂါး

အောင်မြေသာစည်



# စာပါသော ရခိုင်ဝေသာလီဒင်္ဂါးတချို့



အေဒီ-၅၂၀ နီတိစန္ဒြဒင်္ဂါး



အေဒီ-၅၇၅ ဝီရစန္ဒြဒင်္ဂါး

အောင်မြေသာစည်



ဝေသာလီမြင်ကွင်းပုံ
မြတ်ဗုဒ္ဓမဏ္ဍိုင် - အသျှင် တေဇဝန္တနှင့် စာရေးသူ (၂၉.၁.၂၀၀၇)

အောင်မြေသာစည်



ဆရာတော် - အသျှင် စက္ကိန္ဒ (ရခိုင်သမိုင်းသုတေသီ)နှင့် စာရေးသူ
ဗန္ဓုလကျောင်းတိုက်၊ မြောက်ဦးမြို့ (၂၈.၁.၂၀၀၇)



ဝေသာလီမြင်ကွင်းပုံ
မြတ်ဗုဒ္ဓမဟ္လာကိုင် - အသျှင် တေဇဝန္တနှင့် စာရေးသူ (၂၉.၁.၂၀၀၇)



ဝေဘာလီမြင်ကွင်းပုံ
မြတ်ဗုဒ္ဓမဏ္ဍိုင် - အသျှင်တေဇဝန္တနှင့် စာရေးသူ (၂၉.၁.၂၀၀၇)



ဝေသာလီခေတ် ပဋ္ဌမသင်္ဂါယနာတင် ကုန်းတော် (၂၉.၁.၂၀၀၇)



သင်္ဂါယနာတင် ကုန်းတော်ပေါ်ရှိ ကျောက်ဖျာတစ်ချပ် (၂၉.၁.၂၀၀၇)



ခြင်ကိုက်ပိဋကတ်တိုက်

မြောက်ဦးခေတ်၊ ဘုရင်မင်းဖလောင်း ကောင်းမှု။

(ကောဇာ - ၉၃၅၊ အေဒီ - ၁၅၉၁)



စစ်တွေမြို့၊ ရခိုင်ယဉ်ကျေးမှုပြတိုက်ရှေ့ အမှတ်တရ
(၂၃.၉.၂၀၁၂)



ဒေသခံ စာရေးဆရာများနှင့် အမှတ်တရ တွေ့ဆုံဆွေးနွေးပွဲ
ရခိုင်ယဉ်ကျေးမှုပြတိုက်၊ စစ်တွေမြို့။ (၂.၂.၂၀၀၇)



"ရခိုင်စာပေနှင့် ယဉ်ကျေးမှုအဖွဲ့" နှင့် တွေ့ဆုံပွဲ။
ရခိုင်မဂ္ဂဇင်းကော်မတီ၊ စစ်တွေမြို့။ (၈.၂.၂၀၁၀)



ရခိုင်စာပေနှင့် ယဉ်ကျေးမှုဆိုင်ရာများကို ဆွေးနွေးနေကြစဉ်
ရခိုင်မဂ္ဂဇင်းကော်မတီ၊ စစ်တွေမြို့ (၈.၂.၂၀၁၀)

# "သမိုင်းပေးတာဝန်"

**"ပြူ(ပျူ)လူမျိုးတို့၏"** အမျိုး၊ ဗုဒ္ဓဘာသာ၊ သာသနာ၊
စကား၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့သည်
ကမ္ဘာ့မြေမျက်နှာ, မြန်မာ့မြေမျက်နှာပေါ်က
လုံးဝဆိတ်သုဉ်းပျောက်ကွယ်သွားခဲ့ကြသကဲ့သို့၊
**"ရခိုင်လူမျိုးတို့၏"** အမျိုး၊ ဗုဒ္ဓဘာသာ၊ သာသနာ၊
စကား၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့သည်လည်း
ကမ္ဘာ့မြေမျက်နှာ,မြန်မာ့မြေမျက်နှာပေါ်က
လုံးဝဆိတ်သုဉ်းပျောက်ကွယ်မသွားကြစေရန်
အထူးသတိထားစောင့်ထိန်းသွားကြရမည့်တာဝန်သည်
ရဟန်း, ရှင်, လူ -
**"ရခိုင်ပြည်သူတစ်ရပ်လုံး၏ သမိုင်းပေးတာဝန်"** ဖြစ်သည်။
**"ဗုဒ္ဓဘာသာဝင် မြန်မာတိုင်းရင်းသားလူမျိုးအားလုံးတို့၏"**
အမျိုး၊ ဗုဒ္ဓဘာသာ၊ သာသနာ၊ စကား၊ စာပေ၊ ယဉ်ကျေးမှု၊
အနုပညာတို့သည်လည်း ကမ္ဘာ့မြေမျက်နှာ, မြန်မာ့မြေမျက်နှာ
ပေါ်က လုံးဝဆိတ်သုဉ်းပျောက်ကွယ်မသွားကြစေရန်
အထူးသတိထား စောင့်ထိန်းသွားကြရမည့် တာဝန်သည်
ရဟန်း, ရှင်, လူ -
**"မြန်မာတိုင်းရင်းသားလူမျိုးအားလုံးတို့၏ သမိုင်းပေးတာဝန်"**
ဖြစ်သည်။ ။

ဒွါရာဝတီ-အသျှင်ကုသလ

၇. ၇. ၂၀၁၃

အောင်မြေသာစည်

## "မဇ္ဈိမဒေသနှင့် ရခိုင့်သာသနာ"

* မဟာသက္ကရာဇ် **"တစ်ရာ,နှစ်ဆယ့်,သုံး"** မှာလ
စောဘုန်းရှင် မြတ်စွာဘုရားရယ်က
**"ရဟန္တာငါးရာ"** ခြံရံကာဖြင့်
**"ပြည်ညော အာရက္ခ"** ကိုတဲ့
**"အာကာသခရီး"** ဖြင့်ကြွရောက်လာ။
ရခိုင်ပြည့်ရှင် **"ဘုရင်စန္ဒာသူရိယမင်း"** ရယ်နဲ့
နန်းတွင်းပါမကျန် ပြည်သူတကာအများကိုဖြင့်
တရားဒေသနာ မြတ်ဓမ္မကိုလ
ဟောပြမိန့်မှာ။
**"အာရက္ခ"** မည်တွင်ရာ တိုင်းနိုင်ငံရပ်မှာလ
အနာဂတ်ရဲ့ မြတ်ဗုဒ္ဓသာသနာ
ရှည်ကြာဖို့ မျှော်တွေး။
ဗုဒ္ဓ၏ ကိုယ်စားတော်အနေထားပါလို့
ရုပ်ပွားတော် **"မဟာမုနိ"** ကိုဖြင့်
သွန်းဘိတယ်လေး။

* ဘုရားရှင် ပရိနိဗ္ဗာန် လွန်ချိန်နောက်မှာဖြင့်
**"အိန္ဒိယ-မဇ္ဈိမဒေသ"** တစ်ဝန်းလုံးမှာလ
သုံးကြိမ်တိုင်တိုင် သင်္ဂါယနာတင်ခဲ့ကြ
**"အသောကမဟာရာဇာ"** လက်ထက်မှာတော့
**"အသျှင်မဟာမောဂ္ဂလိပုတ္တတိဿ"** မထေရ်မြတ်ရယ်က





စေလွှတ်ကာ သာသနာပြုပါတဲ့
**"သုံးရာစု ဘီစီ"**။
ရခိုင့်မြေကို တာဝန်ကျတာက
**"အသျှင်မဟာရေဝမထေရ်"** ဦးဆောင်ကာဖြင့်
သာသနာသက္ကရာဇ် **"နှစ်ရာ,သုံးဆယ့်,ခြောက်ခု"** မှာတော့
အရိယာထေရ်မွန် **"ရဟန္တာပဉ္စဝဂ်"** ရယ်က
လှမ်းထွက်ကြွချီ။
**"ရက္ခပူရ-မဟိံသကမဏ္ဍလ"** ကိုဖြင့်
**"သူရိယစက္ကမင်း"** စိုးစံအုပ်ချုပ်ချိန်ပ
မြတ်ဗုဒ္ဓရဲ့ သာသနာ့အခြေတည်
**"ဓညဝတီ"** တိုင်းဌာနီအဝန်း။
ဦးဆောင်သူ ထေရ်သံဃာမြတ်မှာလ
**"မဟာရေဝရဟန္တာ"** အသျှင်တစ်ပါးရယ်လို့
ရခိုင်တွင် စံတင်ရစ်ခဲ့တယ်
ထိုးလစ်မော်ကွန်း။ ။

ငွေသဇင် (သံတွဲ)
မင်းပြားမြို့နယ်၊ ကံဖေတိုက်နယ်၊
ဗုဒ္ဓဘာသာယဉ်ကျေးမှုစာမေးပွဲ
တိုးတက်အောင်မြင်စာပွဲသဘင်မှတ်တမ်း၊ ၂၀၁၁-ခု။

## "ရခိုင်နှင့် ပင်းယသာသနာ"

(၁) သာသနာ တစ်ထောင်,ရှစ်ရာ,ငါးဆယ်,ခြောက်
ကိန်းရောက်တဲ့ ချိန်ခါ။
နှစ်ကောဇာ ခြောက်,ခွန်,လေး
တွေးဆဖွေရှာ။
**"ဝိဇယပုရ"** မည်နာမနဲ့
**"ပင်းယမြို့"** တည်ထောင်သူမှာ
**"တစ်စီးရှင်ရာဇာ"** ဟု ကျော်ကြား။
**"သီဟသူ"** ဘွဲ့ အမည်ရှိ
တိုင်းသိထင်ရှား။

(၂) ပင်းယမြို့ နယ်တစ်ဝန်း
ရဟန်းတု များစွာ။
သာသနာ မပွင့်လန်း
ညစ်နွမ်းလို့သာ။
ပုဂံမှ ပြေးရှောင်ခွာ
အဆိုးအဆာတွေ စုဝေး။
ပင်းယသာသနာ အရောင်ညှိုး
ဆိုးခဲ့တယ်လေး။

(၃) သာသနာပြုရန် ပင်းယကိုကြွ
ရခိုင်က ရဟန္တာ။
**"ဒိပ္ပစက္ခု"** နဲ့ **"စူဠအရဟန္တ"**
ထေရနှစ်ဖြာ။
ဥပဇ္ဈာယ်ဆရာ **"မဟိန္ဒပါလမထေရ်မြတ်"** က
စေလွှတ်၍ ကြွရောက်လာ
**"ပင်းယသာသနာ"** တစ်ခေတ်ဆန်း။
အတုအယောင် ကွယ်ကာပျောက်လို့
သာသနာ ဂုဏ်ရောင်တောက်
ဝမ်းမြောက်ရွှင်လန်း။

(၄) **"သီဟသူ"** ဘုရင်မင်းက
ဒကာရင်း ခံယူ။
ပစ္စည်းလေးဖြာ ကူကာထောက်
ချီးမြောက်လို့လှူ။
ရဟန္တာနှစ်ပါး အားသစ်ထူ
ဗုဒ္ဓမူကိုတဲ့ လွန်ကြိုးစား။
ပင်းယသာသနာ အားသစ်လောင်း
ကောင်းခဲ့တကား။

(၅) ရှင်ပြု,ရဟန်းခံ,သိမ်သမုတ်
အားထုတ်ကြ အထွေထွေ။
**"စူဠနှစ်ဖြာ"** လမ်းစဉ်ကျအောင်
မူချခဲ့ပေ။
**"ဒိပ္ပစက်-ရဟန္တာဒွေ"**
နယ်မြေပေါက် ကျော်ကြား။
ထေရ်နှစ်ပါးရဲ့ ဂုဏ်သမိုင်းက

အောင်မြေသာစည်

လိုင်းသို့တစ်အား။

(၆) ရခိုင်နဲ့ ပင်းယ
ပင်းယနဲ့ ရခိုင်။
သာသနာ သမိုင်းဆက်
တွဲလက်မဏ္ဍိုင်။
**"ကျေးဇူး"** ဆိုတဲ့ စကားရပ်
သိတတ်မှ တန်ဖိုးလှိုင်
အကျိုးခိုင်၍ ဂုဏ်ရည်တိုး။
သမိုင်းမေ့ကာ ကျေးဇူးကန်းတော့
**"ပေါက်ပန်းဈေးမျိုး"**။ ။

(သာသနာလင်္ကာရစာတမ်း၊ ဝံသဒီပနီ၊ သာသနဗဟုသုတ ပကာသနီကျမ်းတို့ကို ကိုးကားရေးဖွဲ့သည်။)

ငွေသဇင် (သံတွဲ)
၁၄. ၉. ၂၀၁၂





## "သင်္ဂါယနာတင်ခြင်း"

(၁) **"သံဃာ"** တွေ ညီညွတ်မှုနဲ့
ပေါင်းစုလို့ ရွတ်ရာ။
ဘုရားရှင် **"ပိဋကတ်"**
တည်အပ်မှန်စွာ။
မြတ်ဗုဒ္ဓ သာသနာ
ရှည်ကြာဖို့ မျှော်မှန်း။
ကောင်းကျိုးကို အစဉ်ရှု
ပြုတဲ့လုပ်ငန်း။

(၂) ပထမနဲ့ ဒုတိယ
တတိယ သင်္ဂါယနာ။
**"အာဂုံဆောင်"** ပိဋကတ်
သိမှတ်ဖို့ရာ။
**"အိန္ဒိယ"** မြေပေါ်မှာ
သင်္ဂါယနာ သုံးကြိမ်ပါတဲ့။
**"ရဟန္တာ"** အသျှင်မြတ်တို့
ရွတ်ဖတ်တင်ခဲ့။

(၃) **"သီဟိုဠ်"** မှာ စတုတ္ထ
တင်ကြတဲ့ သင်္ဂါယနာ။
**"ပေရွက်"** မှာ အက္ခရာမျိုးနဲ့
ရေးထိုးပူဇာ။

**"ပေါတ္ထကာရုဠ္ဌ"** ခေါ်တွင်ကာ
ပေလွှာ၌ ပိဋကတ်ကိုရေး။
သာသနာ ရှည်ကြာမြင့်အောင်
နှိုင်းချင့်မျှော်တွေး။

(၄) **"ရခိုင်"** တို့ မြေပေါ်မှာဖြင့်
**"ဝေသာလီ ကျောက်လှေကား"**
ထင်ရှားတဲ့ ခေတ်တွင်။
**"ကြေးပြား"** မှာ ပိဋကတ်
ရေးမှတ်တည်ထွင်။
**"အရေအတွက် ငါးထောင်"** ဝင်
ရခိုင်ထေရ်အသျှင်တို့ ရှုမြင်ခန်း။
**"သင်္ဂါယနာငါးကြိမ်မြောက်"**
ထွန်းတောက်ပေါ်ထွန်း။

(၅) **"ရွှေမန်းမြေ"** မြို့ဌာန
တင်ကြတဲ့ သင်္ဂါယနာ။
**"ကျောက်ပြား"** မှာ ပိဋကတ်
ရေးမှတ်ပူဇာ။
**"ငါးကြိမ်မြောက် သင်္ဂါယနာ"**
**"ဗမာ"** တို့ မှတ်တမ်း။
ထေရ်သံဃာတို့ ကြိုးပမ်းမှု
ပြုတဲ့ အစွမ်း။

(၆) **"မြို့ရန်ကုန်"** နေရာရွေး





**"ကမ္ဘာအေး"** ကုန်းမှာ။
သင်္ဂါယနာ ခြောက်တန်ရောက်
ဝမ်းမြောက်စရာ။
**"စာရွက်"** ၌ ပုံနှိပ်ကာ
**"အက္ခရာ"** ဖော်ညွှန်း။
သာသနာ ဝေဆာရောက်
ဖြိုးမောက်ရွှင်လန်း။ ။

ဒွါရာဝတီ-အသျှင်ကုသလ
ဝံသရက္ခိတမဂ္ဂဇင်း
အတွဲ (၆)၊ အမှတ် (၃)၊ ၂၀၁၃-ခု၊ ဧပြီလ။

## "အိန္ဒိယ၌ ပဌမသင်္ဂါယနာတင်ခြင်း" (ဘီစီ-၅၄၄)

(၁) သက္ကရာဇ်မဟာ တစ်ရာလေးဆယ့်ရှစ်
ရောက်တုံလစ် အခါ။
ဘုရားရှင် နိဗ္ဗာနဓာတ်
ငြိမ်းပြတ်ခန္ဓာ။
လေးလမြောက် ရောက်လေရာ
**"အသျှင်မဟာကဿပ"** ကို အမှူးထား။
**"ရဟန္တာငါးရာ"** ရွေးချယ်မှု
ပြုခဲ့တကား။

(၂) **"ရာဇဂြိုဟ်"** ခေါ်တဲ့ ပြည်မဟာ။
**"ဝေဘာရ တောင်နံဘေး"** ကိုလ
ရွေးကြနေရာ။
**"စရည်းပင်"** များ ပေါက်ရောက်ကာ
ဝေဖြာတဲ့ မြင်ကွင်း။
**"သတ္တပဏ္ဏိ"** လိုဏ်ဂူဝမှာဖြင့်
**"ခုနစ်လတိုင်တိုင်"** စဉ်မပြတ်
ရွတ်ဖတ်လေခြင်း။

(၃) သင်္ဂါယနာ အာဂုံပွဲ
ဆင်နွဲတဲ့ သံဃာ။
တိုင်းဘုရင် **"အဇာတသတ်"** က





ဦးညွတ်ပန်ထွာ။
လုံခြုံရေးနဲ့ လှူဒါန်းမှုအဖြာဖြာ
တပည့်တော်မှာ တာဝန်ထား။
**"ပဌမအကြိမ်"** သင်္ဂါယနာပွဲကိုလ
နွှဲကြတကား။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၉. ၇. ၂၀၁၂

## "အိန္ဒိယ၌ ဒုတိယသင်္ဂါယနာတင်ခြင်း" (ဘီစီ-၄၄၄)

(၁) သာသနာတော် သက္ကရာဇ်
ရောက်ရှိလစ် **"တစ်ရာတွင်"**။
**"အသျှင်မဟာယသ"** အမှူးပြု
ရှေးရှုတိုင်ပင်။
**"ဝေသာလီပြည်"** ရဲ့ တိုင်းရပ်ခွင်
ထေရ်အသျှင်တို့ စုကာဝေး။
**"ဝါလိကာရုံ"** ကျောင်းတော်ကြီးမှာဖြင့်
ထိန်ညီးစွာ သင်္ဂါယနာတင်ပွဲကိုလ
နွှဲကြပြီလေး။

(၂) ရဟန္တာ ခုနစ်ရာအပါး
ရွတ်ပွားလို့ တင်ကြပြီ။
အာဂုံသာ အထူးမှတ်
ရွတ်ဖတ်ညီညီ။
**"ရှစ်လလုံး"** အားမာန်ချီ
ပီပြင်တဲ့ သင်္ဂါယနာပွဲ။
**"ဒုတိယအကြိမ်"** ခေါ်သမုတ်
အားထုတ်ဆင်နွှဲ။

(၃) လုံခြုံရေးနဲ့ လှူဒါန်းရေး
အားပေးဖို့ ပေါ်လာ။





**"ကာလာသောက"** အမည်တပ်
မင်းမြတ်ရာဇာ။
ဘယ်အရေး ဘယ်အရာ
လိုတာမှန်သမျှ ကူညီပေး။
သာသနာ ရှည်ကြာသမှုကိုဖြင့်
မျှော်ရှုလို့တွေး။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၀. ၇. ၂၀၁၂

## “အိန္ဒိယ၌ တတိယသင်္ဂါယနာတင်ခြင်း”
## (ဘီစီ–၃၀၉)

(၁) နှစ်ရာနဲ့ သုံးဆယ့်ငါး
ရောက်ပြားတဲ့ သာသနာ။
**“အသျှင်မဟာမောဂ္ဂလိပုတ္တတိဿ”** မထေရ်မြတ်
ကြီးကြပ်မှန်စွာ။
**“ပါဋလိပုတ်”** ပြည်မဟာ
**“အသောကာရာမ”** ကျောင်းတော်တွင်း။
**“ရဟန္တာ တစ်ထောင်”** ပြု
စုကြလေခြင်း။

(၂) ရဟန္တာ အသျှင်မြတ်တို့
ရွတ်ပွားတဲ့ သင်္ဂါယနာ။
နှုတ်ငုံဆောင် သရဇ္ဈာယ်မှု
ပြုကြသည်သာ။
**“ကိုးလလုံး”** ထေရ်သံဃာ
တင်ရှာတဲ့ သင်္ဂါယနာပွဲ။
**“တတိယအကြိမ်”** ဆောင်ရွက်မှု
ပြုကြမစဲ။

(၃) သမိုင်းမှာ မော်ကွန်းတပ်
ထူးမြတ်တဲ့ ရာဇာ။
**“သီရိဓမ္မာသောက”** ဘုရင်တစ်ပါးရယ်လို့





ထင်ရှားခဲ့တာ။
သာသနာတော်ရဲ့ ဒါယကာ
ပြုခဲ့တာက အံ့မခန်း။
သင်္ဂါယနာ ပွဲတော်မြတ်ကိုဖြင့်
ဦးညွှတ်လျှုဒါန်း။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၁. ၇. ၂၀၁၂

## "သီဟိုဠ်၌ စတုတ္ထသင်္ဂါယနာတင်ခြင်း"
## (ဘီစီ–၉၄)

(၁) **"သီဟိုဠ်ကျွန်း"** အဖြစ်သနစ်
ဖွေလှစ်၍ ကြည့်ပါသော်။
**"ဒုဋ္ဌဂါမဏိ"** ထီးနန်းစိုက်
စံခိုက်မှာနော်။
**"ဗြာဟ္မဏတိဿ"** သူပုန်ကျော်
တော်လှန်လို့ဆင်နွဲ။
အစွမ်းကုန် ကာကွယ်မှု
ပြုရသည်ပဲ။
(၂) စောဋ္ဌတိုင်းက ကျေးမင်းများ
ခြားနားလို့ စစ်ပြုလာ။
ရဟန်းရှင်လူ စိတ်မအေး
ပြေးလို့ရှောင်ခွာ။
ပြေးနိုင်မှ လွတ်မည်သာ
မပြေးနိုင်ပါက ခန္ဓာစဲ။
ရဟန္တာ မထေရ်မွန်တို့မှာဖြင့်
မြတ်နိဗ္ဗာန် ဝင်စံမှုကိုလ
ပြုရသည့်ပွဲ။
(၃) သံဃာတော်တွေ ဒုက္ခကျ
ဆွမ်းကိစ္စ မမျှပေ။

အောင်မြေသာစည်



ဘုရားရှင်ရဲ့ ပါဠိတော်မြတ်
ရွတ်ဖတ်လို့နေ။
ဝမ်းမီးက ပူလောင်ဝေ
သဲစုတွေ ရှာဖွေထား။
သက်န်းမှာ ကောင်းစွာထုပ်ပါလို့
ရင်အုပ်မှာ ဖိကပ်ပေးကာမှ
အေးမြလို့သွား။
(၄) တိုင်းပြည်မှာ စစ်မက်ဘေး
အေးချမ်းမှု ရောက်ခဲ့စဉ်။
ရဟန္တာတွေ စည်းဝေးလို့
ဆွေးနွေးတိုင်ပင်။
ပေထက်မှာတဲ့ အက္ခရာတင်
သင်္ဂါယနာ ခြိမ့်ခြိမ့်သဲ။
**"ဝဋ္ဋဂါမဏိမင်း"** ရဲ့ အကူအညီနဲ့
နောင်ရှည်ကြာ သာသနာအရေးကိုဖြင့်
တွေးဆတဲ့ပွဲ။
(၅) **"လေးရာ့ငါးဆယ်"** ရောက်တုံလစ်
သက္ကရာဇ် သာသနာ။
**"အသျှင်ဓမ္မရက္ခိတ"** အမှူးထား
များလှသံဃာ။
**"ရဟန္တာမြတ် ထေရ်ငါးရာ"**
**"အာလောကလိုဏ်ဂူ"** မှာတဲ့ လွန်စည်ကား။

အောင်မြေသာစည်

**"စတုတ္ထ"** သင်္ဂါယနာရယ်လို့
သမိုင်းမှာ မော်ကွန်းဖွင့်
ကဲဆင့်ထင်ရှား။

(၆) ပိဋကတ်ကို အက္ခရာတေး
ရေးတဲ့ခေတ် စတင်။
ပေရွက်ကို နေရာပေး
ရွေးခဲ့သည်ပင်။
ပေသက်တမ်း တစ်ထောင်ကျော်ဝင်
မြော်မြင်တဲ့ လုပ်ငန်း။
သာသနာ သမိုင်းသစ်
ထိုးလှစ်မော်ကွန်း။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၂. ၇. ၂၀၁၂





## "ရခိုင်၌ ပဥ္စမသင်္ဂါယနာတင်ခြင်း"
## (အေဒီ-၆၃၅-၆၃၈)

(၁) တစ်ထောင့်,တစ်ရာ,ရှစ်ဆယ့်,နှစ်ခု
ရောက်ပြုတဲ့ သာသနာ။
**"ရခိုင်အသျှင် စူဠရေဝရဟန္တာမြတ်"** က
ကြီးကြပ်ခဲ့တာ။
သီဟိုဠ်မှ ထေရ်ငါးရာ
ရခိုင်သံဃာက တစ်ထောင့်ငါးရာစာရင်း။
ပေါင်းသံဃာ **"နှစ်ထောင်"** တို့မှာဖြင့်
သာသနာ ရှည်ကြာရေးကိုလ
အားပေးလေခြင်း။

(၂) ရခိုင့်သာသနာ နေခြည်တောက်သလိုပ
**"ဝေသာလီကျောက်လှေကားမြို့တော်"**။
**"မဟာဒွေင်စန္ဒြား"** တည်ထောင်အပ်
တိုင်းရပ်ပြည်ကျော်။
**"ရွှေတောင်ကြီး"** ရဲ့ တောင်ထိပ်ပေါ်
ဗိမာန်တော်က လွန်ခံ့ညား။
**"ရဟန္တာနှစ်ထောင်"** သင်္ဂါယနာတင်ပွဲကိုလ
နွှဲခဲ့တကား။

(၃) ပြည်ရခိုင်မှာ **"တာမြက္ခရာရှင့်"** ကိုဖြင့်
**"ကြေးချပ်နီ-ဝါ ငါးထောင်"** အားရယ်နဲ့

တင်ထားတဲ့ အက္ခရာ။
ရေးထိုးချိန် **"သုံးနှစ်"** မျှ
ကြာရသည်သာ။
**"သီရိစန္ဒြား"** မင်းရာဇာ
ပစ္စည်းလေးဖြာ ထောက်ပံ့ပေး။
**"ပဌမအကြိမ်"** သင်္ဂါယနာပွဲကိုတဲ့
နွှဲခဲ့တယ်လေး။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၃. ၇. ၂၀၁၂





## "မန္တလေး၌ ပဥ္စမသင်္ဂါယနာတင်ခြင်း"
## (အေဒီ-၁၈၆၈-၁၈၇၁)

(၁) နှစ်ထောင်,လေးရာ,တစ်ဆယ့်ငါး
ထင်ရှားတဲ့ သာသနာ။
**"မန္တလာ"** မြို့ဂုဏ်သတင်း
လင်းတဲ့ချိန်ခါ။
**"ဇာဂရာဘိဝံသ"** ထေရ်မြတ်မဟာ
ကြီးမှူးကာပ သံဃာများ။
**"နှစ်ထောင့်,လေးရာ"** ကိန်းဂဏန်း
ညွှန်းခဲ့တကား။
(၂) မန်းတောင်ခြေ တန်ဆောင်းမြတ်
တင်အပ်တဲ့ သင်္ဂါယနာ။
ကျောက်ထက်မှာ အက္ခရာမျိုး
ရေးထိုးသေချာ။
**"ပဥ္စမအကြိမ်"** ဟု သတ်မှတ်ကာ
**"သေလက္ခရာ"** တင်ခဲ့ကြ။
သုံးနှစ်တိုင်တိုင် ကြိုးပမ်းမှု
ပြုခဲ့ပေစွ။
(၃) ပစ္စည်းလေးပါး လျှုဒါန်းခြင်း
**"မင်းတုန်းမင်း"** ဒါယကာ။
အရာရာ ထောက်ပံ့မှု

ပြုခဲ့သည်သာ။
ရွှေမန်းမြို့ သာသနာ
ဝေဖြာလို့ ထိန်လင်း။
နောင်အစဉ် သည်ဂုဏ်ဒြပ်ကို
ထိန်းအပ်လေခြင်း။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၄. ၇. ၂၀၁၂





## "ရန်ကုန်၌ ဆဋ္ဌသင်္ဂါယနာတင်ခြင်း"
## (ခေအဒီ-၁၉၅၄-၁၉၅၆)

(၁) နှစ်ထောင့်,ငါးရာပြည့်တုံလစ်
ထွန်းသစ်တဲ့ သာသနာ။
သင်္ဂါယနာ တင်တဲ့ပွဲ
နွှဲဖို့ပေါ်လာ။
**"ရန်ကုန်မြို့"** မြေနေရာ
ရွေးချယ်ပါတဲ့ ကမ္ဘာအေး။
**"မဟာပါသာဏ"** လိုဏ်ဂူတွင်းမှာလ
ကျင်းပတယ်လေး။
(၂) ရွှေမန်းမြေ ဂုဏ်ရည်တိုးပါတဲ့
မိုးကောင်းတိုက် ထေရ်မဟော်။
**"ဘဒ္ဒန္တရေဝတ"** ဦးဆောင်မှု
ပြုခဲ့သနော်။
**"မဟာစည်"** က အမေးတော်
**"မင်းကွန်းမထေရ်ကျော်"** က အဖြေပေး။
**"နှစ်ထောင့်ငါးရာ"** သံဃာများမှာလ
ရွတ်ပွားကာ သင်္ဂါယနာပွဲ
နွှဲခဲ့ပြီလေး။
(၃) နှစ်နှစ်တိုင်တိုင် ကျင်းပကြ
ဆဋ္ဌခေါ်တဲ့ သင်္ဂါယနာ။

ပစ္စည်းလေးဖြာ ထောက်ပံ့မှု
ပြုကြသည်သာ။
မင်းအစိုးရ ဒါယကာ
ဦးဆောင်တာက ဝန်ကြီးချုပ်။
သာသနာ သမိုင်းသစ်
ထိုးလှစ်ဂုဏ်ပုဒ်။ ။

ဒွါရာဝတီ-အသျှင်ကုသလ
၁၅. ၇. ၂၀၁၂





# အခန်း (၂)

# နိဒါန်းစကား



http://arakanindobhasa.blogspot.com/

နမော ဗုဒ္ဓါယ သိဒ္ဓံ

## "နိဒါန်းစကား"

**"သမိုင်း"** ဆိုသည်မှာ မလိမ်မညာကောင်း။ လိမ်ညာထားသော သမိုင်းသည်လည်း တစ်နေ့နေ့တွင် ပေါ်လာရစမြဲဖြစ်၏။ အလိမ်အညာကို ခံနေကြရသည်ဆိုရာ၌ အင်အားမရှိ၍လည်း ဖြစ်နိုင်သည်။ သို့မဟုတ် သမိုင်းကိုမသိ၍လည်း ဖြစ်နိုင်သည်။ သမိုင်းကို လိမ်ညာခဲ့ကြသော ပုဂ္ဂိုလ်တို့မှာကား **"သမိုင်း၏တရားခံ"** အဖြစ်သို့ ရောက်ရှိသွားကြရ၏။

မိမိလူမျိုးတို့၏ သမိုင်းအစဉ်အလာကို သိသင့်၏။ မသိလျှင် သူတစ်ပါးတို့၏ အလိမ်အညာကို ခံရတတ်၏။ ထို့ကြောင့် သမိုင်းကို သိအောင် ကြိုးစားအားထုတ်ကြရမည် ဖြစ်၏။ သမိုင်းကို မသိသော သူသည် **"အ,အ"** နှင့်တူ၏။ **"အ,အ"** ဟူသည် အသက်ရှင်လျက် စကားမပြောတတ်သော သူကို ခေါ်ခြင်းဖြစ်၏။

ကမ္ဘာ့အလယ်၌ လူမျိုးတစ်မျိုးဟု ဖြစ်တည်လာလျှင် ထိုလူမျိုး၌ သမိုင်းရှိကြရ၏။ သမိုင်းမရှိသော လူမျိုးသည် တန်ဖိုးမရှိ။ သမိုင်းဟူ

အောင်မြေသာစည်

သည် လူမျိုးတစ်မျိုး၏ **"အမှတ်သင်္ကေတ"** ပင်တည်း။ အမှတ်သင်္ကေတဟူသည် အမျိုး၊ ဘာသာ၊ သာသနာ၊ စကား၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့ကို ခေါ်၏။ ယင်းအမှတ်သင်္ကေတတို့ ပျောက်ကွယ်သွားမည်ဆိုလျှင် ထိုလူမျိုးတို့မှာလည်း တန်ဖိုးမရှိဖြစ်တော့၏။ မိမိတို့တန်ဖိုးကို မိမိတို့ကိုယ်တိုင် ထိန်းသိမ်းကြရမည် ဖြစ်၏။ သူတစ်ပါးက ထိန်းသိမ်းပေး၍မရ။

လူသားတို့သည် သမိုင်းကို ဖန်တီးကြ၏။ ယင်းသမိုင်းသည် ကောင်းသော သမိုင်းလည်း ရှိ၏။ မကောင်းသော သမိုင်းလည်း ရှိ၏။ ကောင်းသော သမိုင်းကို တန်ဖိုးထားကြ၏။ အတုယူကြ၏။ လိုက်နာကျင့်သုံးကြ၏။ မှတ်တမ်းတင်မော်ကွန်းထိုးကြ၏။ မကောင်းသော သမိုင်းကိုကား စက်ဆုတ်ကြ၏။ ရွံမုန်းကြ၏။ အန္တရာယ်ဟူ၍ ရှုမြင်သုံးသပ်ကြ၏။ သင်ခန်းစာအဖြစ် သဘောထားတတ်ကြ၏။ ထို့ကြောင့် လောကမှာ သမိုင်းကြောင်းကောင်းဖို့ အရေးကြီးပါသည်။

သမိုင်းကို ဖော်ထုတ်နေကြသော ပုဂ္ဂိုလ်တို့အနေဖြင့်လည်း **"အမှန်ကိုအမှားမလုပ်သင့်။အမှားကိုလည်းအမှန်မလုပ်သင့်။ အမှန်ကို အမှန်အတိုင်း။ အရှိကို အရှိအတိုင်း"** တင်ပြမှ သမိုင်းဖြစ်သည်။

မျက်နှာကိုကြည့်၍ အကြောက်တရားဖြင့် ရေးနေကြရသော သမိုင်းသည်လည်း သမိုင်းကောင်းမဟုတ်သလို၊ သမိုင်းကိုမသိဘဲ ရေးနေကြသော သမိုင်းသည်လည်း သမိုင်းကောင်းမဟုတ်ချေ။

ရခိုင်လူမျိုးတို့သည်လည်း ရှေးရာစုပေါင်းများစွာကပင် ကမ္ဘာ့အလယ်၌ လူမျိုးတစ်မျိုးအနေဖြင့် ရပ်တည်နေထိုင်လာခဲ့ကြ၏။ ယင်း **"ရခိုင်"** ဟူသည် အဘယ်နည်း။ ရခိုင်ကို **"ဘာသာဗေဒရှုထောင့်"**





က သုံးသပ်ကြည့်လျှင် ဤသို့တွေ့ရ၏။

**"ရခိုင်"** ဟူသည် **"အာရိယန်မျိုးရိုး"** က ဆင်းသက်လာခဲ့ကြသော "အာရက္ခဝံသ" များဖြစ်ကြ၏။ ယင်း **"အာရက္ခ"** မှ **"အာရက္ခိုင်"** ဟု အသံပြောင်းလဲလာပြီးလျှင်၊ ထိုမှတစ်ဆင့် **"ရခိုင်"** ဟူသော အမည်နာမ ဖြစ်ပေါ်လာခဲ့ရခြင်း ဖြစ်ပါသည်။ အဆိုပါ **"အာရက္ခ+ အာရက္ခိုင် + ရခိုင်"** ဟူသောဝေါဟာရ၏အဓိပ္ပါယ်မှာ **"အမျိုးကို စောင့်ရှောက်တတ်သော လူမျိုး"** ဟု အဓိပ္ပါယ်ရပါသည်။

**"အာရက္ခ+ အာရက္ခိုင်+ ရခိုင်"** ဟူသော ဝေါဟာရကို အိန္ဒိယကုလားတို့က ပီပီသသမထွက်ရှိနိုင်။ အာလုပ်သံဖြင့် **"အာရက္ခိုင်"** ဟူ၍ အသံထွက်၏။ ယင်းကို အင်္ဂလိပ်တို့က **"အာရကန်"** ဟုကြား၏။ သူတို့ကြားသည့်အတိုင်း မှတ်တမ်းတင်ခဲ့ကြခြင်း ဖြစ်၏။ ယင်း **"အာရကန်"** ဟူသော အမည်နာမသည်လည်း **"ကမ္ဘာကျော်အောင်"** ထင်ရှားခဲ့သော ရခိုင်တို့၏ အမည်နာမတစ်ခုဖြစ်ခဲ့၏။ ရခိုင်ရာဇဝင်၌ **"အာရကန်"** ဟူ၍မရှိ။

အိန္ဒိယ၊ မဇ္ဈိမဒေသက **"သာကီဝင်"** လူမျိုးတို့သည်လည်း **"အာရိယန်မျိုးရိုး"** က ဆင်းသက်လာခဲ့ကြသော **"သကျဝံသ"** (သို့မဟုတ်) **"သာကီယဝံသ"** များ ဖြစ်ကြ၏။ ယင်း **"သကျဝံသ+ သာကီယဝံသ"** ကို အစွဲပြု၍ **"သာကီဝင်"** ဟူသော အမည်နာမ ဖြစ်ပေါ်လာခဲ့ရ၏။ **"ဗုဒ္ဓဝံသ"** မှ **"ဗုဒ္ဓဝင်"** ဟူ၍ **"ပါဠိသက်"** ဝေါဟာရဖြစ်ပေါ်လာသကဲ့ သို့ မှတ်အပ်၏။ ယင်း **"သကျ"** မှာ **"စွမ်းနိုင်ခြင်း"** ဟု အဓိပ္ပါယ်ရပြီး၊ **"သာကီယ"** မှာတော့ **"သာကီဝင်လူမျိုး"** တစ်နည်း **"အမျိုးကို စောင့် ရှောက်တတ်သော လူမျိုး"** ဟု အဓိပ္ပါယ်ရပါသည်။

အာရက္ခဝံသနှင့် သာကီယဝံသဟူသည် **"အာရိယန်မျိုးရိုး"** က ဆင်းသက်လာခဲ့ကြသော **"ညီနောင်ရင်းချာ-မျိုးနွယ်တူများ"** ဖြစ်၏။ ထို့ကြောင့် ရခိုင်မင်းအပေါင်းတို့သည်လည်း **"သာကီဝင်"** ဟူသော အမည် နာမကို မြတ်မြတ်နိုးနိုး ခံယူခဲ့ကြသည်ကို ရခိုင်ရာဇဝင်တို့၌ တွေ့ရ၏။ ယင်းသာကီဝင်မျိုးရိုးထဲမှ **"မြတ်ဗုဒ္ဓ"** ပွင့်ထွန်းပေါ်ပေါက်လာသောအခါ ၌လည်း ရခိုင်လူမျိုးတို့သည် မြတ်ဗုဒ္ဓ၏ ဘာသာ အယူဝါဒကို လက်ခံခဲ့ ကြ၏။ သက်ဝင်ယုံကြည်ခဲ့ကြ၏။ **"ရခိုင်လူမျိုးစစ်မှန်လျှင် ဗုဒ္ဓဘာသာမှ တစ်ပါး တစ်ခြား မည်သည့် ဘာသာကိုမှ လက်ခံယုံကြည်သော လူမျိုးများ မ ဟုတ်ကြပါ။"** အဘယ်ကြောင့်ဆိုသော် ရခိုင်လူမျိုးတို့တွင် **"အာရိယန် စိတ်ဓာတ်"** (သို့မဟုတ်) **"အာရက္ခစိတ်ဓာတ်"** အပြည့်အဝ ရှိနေသော ကြောင့် ဖြစ်၏။ ယင်းစိတ်ဓာတ်သည်ပင်လျှင် ရခိုင်လူမျိုးတို့၏ **"အသက်"** ပင်တည်း။

ရခိုင်လူမျိုးတို့ စတင်ချိန်ကို ခန့်မှန်းရလျှင် ကုသမင်းသက္ကရာဇ် ၄၀၀၀-မတိုင်မီ၊ ဘီစီ-၆၀၀၀ ခန့်ကာလကပဲ ဖြစ်၏။ ယင်းအချိန်မှစ၍ ယနေ့အချိန်အထိ **"ရခိုင်လူမျိုး"** ဟူ၍ ကြာမြင့်စွာ တည်ရှိနေခြင်းမှာ အမျိုးကို စောင့်ရှောက်နေကြ၍ ဖြစ်၏။ ဆက်လက်၍ ထိန်းသိမ်းသွားနိုင်ရန် မျိုးဆက်သစ်များကို မွေးထုတ်ပေးကြရမည် ဖြစ်၏။ ရှေးရာစုပေါင်းများစွာက **"အဖ၊ အဖိုး၊ အဘီး၊ အဘူ၊ အဘာ၊ အနူ၊ အနာ"** တို့ ကိုင်ဆောင်လာခဲ့ကြသည့် **"သမိုင်းမီးရှူးတိုင်ကြီး"** ကို အနာဂတ်မျိုးဆက် သစ်များက လက်ဆင့်ကမ်း သယ်ဆောင် သွားကြရမည် ဖြစ်၏။





မိမိလူမျိုးတို့၏ **"ယဉ်ကျေးမှုသမိုင်းအမွေ"** ကို သေးသိမ်သည်ဟု ထင်မှတ်ပြီး၊ သူတစ်ပါးလူမျိုးတို့၏ ယဉ်ကျေးမှု သမိုင်းအမွေကိုမှ အထင် အမြင်ကြီးနေခဲ့လျှင်၊ ထိုသူကို **"ဦးနှောက် ယိုစီးသော ရောဂါ"** စွဲကပ်နေ သူဟု ဆိုထိုက်၏။ ကုသရန် ဆေးမရှိ သော ထိုရောဂါရှင်ကြောင့် ပတ်ဝန်းကျင်ကိုပါ ကူးစက်နိုင်ပြီးလျှင် လူမျိုးတစ်မျိုးလုံးကိုလည်း ဒုက္ခပေး သွားနိုင်ကြောင်း သတိမူသင့်၏။

လူ့တန်ဖိုးဟူသည် အဘယ်နည်း။ လူ့တန်ဖိုးကို စာရေးသူက ဤကဲ့သို့ အဓိပ္ပါယ်ဖွင့်ဆိုချင်၏။ လူ့တန်ဖိုးဟူသည် **"ကိုယ်ကျင့်တရား"** ပင်တည်း။ ကိုယ်ကျင့်တရားကောင်းပါမှ လူ့တန်ဖိုးတက်မည် ဖြစ်၏။ ကိုယ်ကျင့်တရားမကောင်းဘူးဆိုလျှင် အဘယ်မှာ တန်ဖိုးရှိပါတော့အံ့နည်း။ လူ့တန်ဖိုးကို ရာထူး၊ ဂုဏ်သိန်၊ စည်းစိမ်ဥစ္စာ၊ အရှိန်အဝါ တို့ဖြင့် တိုင်းတာ၍မရ။

လူမျိုးတစ်မျိုးဖြစ်လာလျှင် ထိုလူမျိုး၌ ဘာသာ၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့သည် ရှိကြရ၏။ ဘာသာ၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့သည် ထိုလူမျိုးတို့၏ **"အသက်သွေးကြော"** ပင်တည်း။ ယင်း အသက်သွေးကြောတို့ အမြဲရှင်သန်နေမှ ထိုလူမျိုးတို့ အသက်ရှင်နေသည် နှင့် တူ၏။ လူမျိုးတစ်မျိုး၌ ဘာသာ၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့ သေသွားမည်ဆိုလျှင်၊ ထိုလူမျိုးတို့မှာလည်း သေသည်နှင့် မထူးတော့ ချေ။ အသက်ရှင်နေသော်လည်း တန်ဖိုးမရှိဖြစ် တော့၏။

ဤစာအုပ်သည် ရခိုင်တို့၏ သမိုင်းဝင်အကြောင်းအရာပေါင်းများစွာထဲက ဗုဒ္ဓဘာသာ,သာသနာတော်ဆိုင်ရာ **"သင်္ဂါယနာတင်ပွဲသမိုင်း"** ကို ပြုစုထားခြင်း ဖြစ်သည်။ ယင်း **"သင်္ဂါယနာတင်ပွဲသမိုင်း"**

ကို မည်သည့်ခေတ်၊ မည်သည့်ခုနှစ်၊ မည်သည့်မင်းလက်ထက်တွင်၊ မည်သည့် မြို့ရွာဒေသ၌၊ မည်သည့်ရဟန်းသံဃာတော်တို့ ဦးဆောင်၍၊ မည်မျှကြာ မြင့်အောင် ဆောင်ရွက်လုပ်ကိုင်ခဲ့ကြပါသနည်း ဟူသော အမေးဖြစ်ပေါ် ခဲ့လျှင် ဤသမိုင်းစာအုပ်က အသင့်တော်ဆုံးအဖြေကို ပေးနိုင်လိမ့် မည်ဟု ယုံကြည်ပါသည်။

ယနေ့မျက်မှောက်ခေတ် **"ရခိုင်ပြည်၏ဗုဒ္ဓသာသနာ့သမိုင်း"** တွင် ပျောက်ကွယ်လုမတတ်ဖြစ်နေသော ရခိုင်ပြည်၊ ဝေသာလီကျောက် လှေကားခေတ်၊ ဝေသာလီမြို့တော်အနီးရှိ ယခင်-ရွှေတောင်ကြီး၊ ယခု-သရက်ချိုတောင်-ခေါ် **"သင်္ဂါယနာတင်ကုန်း"** ၌ ကြေးနီ၊ ကြေးဝါချပ်ရေ (၅၀၀၀) ၌ ရခိုင်သံဃာ (၁၅၀၀) နှင့် သီဟိုဠ်သံဃာ (၅၀၀) တို့ စုပေါင်း က **"တာမြကူရာရှင်ပဥ္စမသင်္ဂါယနာ"** တင်တော်မူခဲ့ကြသည့် **"ရခိုင် တို့၏ ပဥ္စမသင်္ဂါယနာတင်သမိုင်း"** ကို အများပြည်သူတို့ လေ့လာဖတ် ရှုသိရှိ နိုင်ကြစေရန် စေတနာကောင်းဖြင့် ရေးသားပြုစု တင်ပြလိုက် ရပေသည်။

**"ရခိုင်သမိုင်းကို ရခိုင်သားတိုင်း သိအောင် အားထုတ်ကြ လော့။"**

ဒွါရာဝတီ-အသျှင်ကုသလ
(ရခိုင်စာပေယဉ်ကျေးမှုနှင့် သမိုင်းသုတေသီ)
၂၇. ၆. ၂၀၁၃
၁၃၇၅-ခု၊ နယုန်လပြည့်ကျော်(၄)ရက်၊ ကြာသပတေးနေ့။

အောင်မြေသာစည်



# အခန်း (၃)

# ရခိုင်တို့၏ ပဥ္စမသင်္ဂါယနာတင် သမိုင်း

## ( အေဒီ - ၆၅၃ - မှ - ၆၃၈ - ထိ )



http://arakanindobhasa.blogspot.com/

# ရခိုင်တို့၏ "ပဥ္စမသင်္ဂါယနာတင်သမိုင်း" (အေဒီ–၆၃၅–မှ–၆၃၈–ထိ)

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ရခိုင်ပြည်၊ ဝေသာလီကျောက်လှေကားခေတ် (အေဒီ-၃၂၇-မှ-၈၁၈-ထိ)၊ **"သီရိဓမ္မဝိဇယ(သီရိစန္ဒြား)မင်း"** လက်ထက် (အေဒီ-၆၂၂-မှ-၆၅၈-ထိ)၊ အေဒီ ၆၃၈ တွင် **"ပဥ္စမသင်္ဂါယနာ"** တင်ခဲ့ကြသည့် သမိုင်းဖြစ်ရပ်အမှန်ကို **"ဂ,ဃ၊ န,ဏ"** မသိရှိသူများက သို့မဟုတ် သမိုင်းနှင့်မနီးစပ်ဘဲ အလှမ်းဝေးနေသူများက **"ဟုတ်မှဟုတ်ပါ့မလား"** ဟု သံသယဝင်နိုင်စရာ အကြောင်းရှိပါသည်။

အကယ်၍ ရခိုင်ပြည်သည် ကောဇာ-၁၁၄၆-ခု၊ (အေဒီ-၁၇၈၄) တွင် အမရပူရ၊ ဘိုးတော်ဗဒုံမင်း(မောင်ဝိုင်း)၏ လက်အောက်သို့ မကျရောက်ခဲ့ရဘူးဆိုပါလျှင်၊ အထက်ဖော်ပြပါ သံသယမှာလည်း ဝင်လာနိုင်စရာ အကြောင်းမရှိပါ။ အဘယ်ကြောင့်ဆိုသော် ရခိုင်လူမျိုးတို့သည် မိမိတို့၏ ထင်ရှားရှိခဲ့သော စာပေ၊ ယဉ်ကျေးမှု စသော သမိုင်းဖြစ်ရပ်

အောင်မြေသာစည်

http://arakanindobhasaa.blogspot.com/

များကို လွတ်လပ်စွာ ထုတ်ဖော်ခွင့်၊ ရေးသားတင်ပြခွင့် မရရှိခဲ့ကြသည်မှာ နှစ်ပေါင်းနှစ်ရာကျော်သည်အထိ (အတိအကျဆိုရပါမူ နှစ်ပေါင်း ၂၂၈-နှစ်တိုင်တိုင်) ကြာမြင့်ခဲ့သောကြောင့် ဖြစ်၏။

**"ရခိုင်ပြည်၏ ဗုဒ္ဓသာသနာ့သမိုင်း"** တွင် အလွန်အရေးပါခဲ့သော၊ မင်းနှင့်အတူ ရဟန်း၊ ရှင်၊ လူ ပြည်သူတစ်ရပ်လုံး အားကြိုးမာန်တက်ကြိုးပမ်းအားထုတ်ခဲ့ကြသော၊ မေ့ပျောက်၍ မရစကောင်းသော၊ ဝေသာလီကျောက်လှေကားခေတ်၊ ဝေသာလီမြို့တော်အနီးရှိ (မြောက်ဦးမြို့နှင့် ၆-မိုင်ခန့်အကွာ၊ ဝေသာလီရွာ၏မြောက်ဘက်)၊ ယခင်-ရွှေတောင်ကြီး၊ ယခု-သရက်ချိုတောင်ခေါ် **"သင်္ဂါယနာတင်ကုန်းမြေ"** ပေါ်၌ **"ပဉ္စမ သင်္ဂါယနာ"** တင်ခဲ့ကြသည့် သမိုင်းဖြစ်ရပ်နှင့် **"သင်္ဂါယနာ"** ဟူသော ဝေါဟာရနှင့်ပတ်သက်သော သမိုင်းကြောင်းတို့ကို ရေးသားတင်ပြသွားမည် ဖြစ်ပါသည်။





## သင်္ဂါယနာဟူသော အဓိပ္ပာယ်

**"သင်္ဂါယနာ"** ဟူသောစကားသည် ပါဠိဘာသာစကားဖြစ်၏။ သက္ကတ္ထရလို **"သံဂါယန"** ဟုခေါ်၏။ အနက်အဓိပ္ပါယ်မှာ **"အညီအညွတ်ရွတ်ခြင်း၊ သင်္ဂါယနာတင်ခြင်း"** ဟု ရပါသည်။ သံဃာတော်များစုပေါင်း၍ အညီအညွတ်ရွတ်ဆိုခြင်းကို "သင်္ဂါယနာ" ဟုခေါ်ခြင်းဖြစ်သည်။

ဂေါတမဗုဒ္ဓ ပရိနိဗ္ဗာန်စံပြီးနောက် ရက်ပေါင်း ၁၀၀ အတွင်း (၃-လနှင့် ၅-ရက်အကြာ) က စတင်ပြီး **"ပဌမသင်္ဂါယနာ"** တင်ခဲ့ကြသည်မှစ၍ နေရာဒေသအလိုက် သင်္ဂါယနာတင်ခဲ့ကြသော သမိုင်းမှတ်တမ်းများမှာ အကြိမ်အရေအတွက်နှင့်တကွ သူ့နေရာနှင့်သူ ရှိနေကြပါသည်။

အဋ္ဌကထာကျမ်းပြုဆရာ **"အသျှင်မဟာဗုဒ္ဓဃောသ"** သည် သီလ က္ခန္ဓဝဂ္ဂအဋ္ဌကထာ၊ နိဒါနကထာတွင် **"ပဌမမဟာသင်္ဂီတိကထာ"** ဟူ၍ ပဌမသင်္ဂါယနာတင်ရခြင်းအကြောင်းကိုသာ ဖော်ပြထားသော်လည်း၊ ပါရာဇိက,ကဏ္ဍအဋ္ဌကထာ၊ ဗာဟိရနိဒါနကထာတွင်

ပဌမ,မဟာသင်္ဂီတိ ကထာ၊ ဒုတိယသင်္ဂီတိကထာ၊ တတိယသင်္ဂီတိကထာ ဟူ၍ **“သင်္ဂါယနာ သုံးတန်”** တင်ခဲ့သည့် သမိုင်းကြောင်းများကို အပြည့်အစုံဖော်ပြထား သည်ကို တွေ့ရသည်။

**“သင်္ဂါယနာ”** ဟူသော ပါဠိဝေါဟာရနှင့် အလားတူသော ပါဠိဝေါဟာရများကို သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ၌ -သင်္ဂီတိ၊ ဓမ္မသင်္ဂီတိ၊ သင်္ဂီတိံ၊ ဓမ္မသင်္ဂီတိံ၊ ဓမ္မသင်္ဂီတိယာ၊ သင်္ဂါယေယျုံ၊ သင်္ဂါယနတ္ထံ၊ သင်္ဂါယာမ၊ သင်္ဂါယေယျာမ၊ သင်္ဂါယိတုံ၊ သင်္ဂါယတိ၊ သင်္ဂါယိတ၊ သင်္ဂါယိဿာမ၊ ဓမ္မသင်္ဂါဟက၊ ဓမ္မသင်္ဂါဟကတ္ထေရာ၊ သင်္ဂဟံ၊ ဓမ္မသင်္ဂဟံ၊ သင်္ဂဟမာရုဠှေ၊ သင်္ဂါယိတုကာမော စသည်ဖြင့် တွေ့ရှိရသည်။

အထက်ဖော်ပြပါ ပါဠိဝေါဟာရပုဒ်များမှာ သင်္ဂါယနာတင်ပွဲနှင့် ပတ်သက်၍ သူ့နေရာနှင့်သူ သုံးစွဲထားသော ပါဠိဝေါဟာရများဖြစ်ကြ၏။ ရခိုင်လူမျိုးတို့အနေဖြင့် **“သင်္ဂါယနာ”** ဟူသော ပါဠိဝေါဟာရအသုံးအနှုန်းကို ဝေသာလီကျောက်လှေကားခေတ်၊ အေဒီ-၆၃၅-မှ-၆၃၈-အထိ အချိန်ကပင် ပြောဆိုသုံးနှုန်းနေကြပြီဖြစ်ကြောင်း သမိုင်းက သက်သေပြုနေသည်။ ယင်းခေတ်ကာလက ရခိုင်ပြည်တွင် သင်္ဂါယနာတင်ခဲ့ကြသည့် ဝေသာလီမြို့တော်၏မြောက်ဘက်အရပ် ယခင်အခေါ်-ရွှေတောင်ကြီး၊ ယခုအခေါ်-သရက်ချိုတောင်ကုန်းကို **“သင်္ဂါယနာကုန်း”** ဟု ယနေ့ထက်တိုင် ရခိုင်တို့ခေါ်ဝေါ်နေကြခြင်းသည် ရခိုင်ပြည်၏ ခိုင်မာသော သမိုင်းသက်သေအထောက်အထားပင် ဖြစ်သည်။

ဗုဒ္ဓသာသနာတော်၌ ရဟန်းသံဃာတော်တို့ သင်္ဂါယနာတင်ရခြင်း၏အကြောင်းကို ပါရာဇိက,ကဏ္ဍအဋ္ဌကထာ၊ ဗာဟိရနိဒါနကထာ၊ ပဌမ,မဟာသင်္ဂီတိကထာတွင် တွေ့ရှိနိုင်သည်။ မြတ်ဗုဒ္ဓပရိနိဗ္ဗာန်စံတော်





မူပြီး များမကြာမီအချိန်တွင် **“သုဘဒ္ဒ”** အမည်ရှိသော ရဟန်းကြီး၏ ပြောကြားချက်ကို **“အသျှင်မဟာကဿပမထေရ်မြတ်ကြီး”** ကြားသိတော် မူရသည့်အခါ အလွန်ပင် စိတ်နှလုံးမချမ်းမမြေ့ ဖြစ်ခဲ့ရ၏။ ထို့ကြောင့် အသျှင်မဟာကဿပမထေရ်မြတ်ကြီးက -

**“ဟန္ဒ မယံ အာဝုသော ဓမ္မဉ္စ ဝိနယဉ္စ သင်္ဂါယေယျာမ၊ ပုရေ အဓမ္မော ဒိပ္ပတိ၊ ဓမ္မော ပဋိဗာဟိယျတိ၊ အဝိနယော ဒိပ္ပတိ၊ ဝိနယော ပဋိဗာဟိယျတိ၊ ပုရေ အဓမ္မဝါဒိနော ဗလဝန္တော ဟောန္တိ၊ ဓမ္မဝါဒိနော ဒုဗ္ဗလာ ဟောန္တိ၊ အဝိနယဝါဒိနော ဗလဝန္တော ဟောန္တိ၊ ဝိနယဝါဒိနော ဒုဗ္ဗလာ ဟောန္တီ”** တိ။ (ဝိ၊ ၄ ၊ ၄၈၁ ၊ ပိဋ္ဌေ။)

**“ငါ့သျှင်တို့ မတရားအဓမ္မဝါဒ အထွန်းပမီ၊ တရားဓမ္မဝါဒ တား မြစ်ပိတ်ပင်ခြင်း မခံရမီ၊ မဟုတ်မမှန်သော ဝိနည်းစည်းကမ်း မထွန်းပမီ၊ ဟုတ်မှန်သော ဝိနည်းတရား ပိတ်ပင်ခြင်း မခံရမီ၊ အဓမ္မဝါဒီပုဂ္ဂိုလ် များ အင်အားမကောင်းမီ၊ ဓမ္မဝါဒီပုဂ္ဂိုလ်များ အင်အားမနည်းမီ၊ ဝိနည်း မလေးစား မလိုက်နာသူများ အင်အားမကောင်းမီ၊ ဝိနည်းလေးစားလိုက် နာသူများ အင်အားမနည်းမီ၊ ငါတို့သည် ယခုနှစ်က ကြိုတင်၍ ဓမ္မဝိနယကို သင်္ဂါယနာတင်ကြကုန်စို့။”** ဟု ပဌမသင်္ဂါယနာတင်ရန် မိန့်မြွက်တော် မူခဲ့ပါသည်။

**“သင်္ဂါယနာ”** ဟူသော ဝေါဟာရအသုံးအနှုန်းနှင့်ပတ်သက်၍ ကျမ်းဂန်စာပေ၌ - (၁) သင်္ဂါယ၊ (၂) သင်္ဂီတိ၊ (၃) သင်္ဂဟ ဟူ၍ သုံးအုပ်စုခွဲကာ သင့်လျော်သလို သုံးနှုန်းထားသည်ကို တွေ့ရသည်။

(၁) **"သင်္ဂါယ"** ၏အဓိပ္ပာယ်မှာ ပေါင်းရုံး၍ရွတ်ဆိုခြင်း၊ အညီအညွတ်သီဆိုခြင်း၊ အညီအညွတ်ရွတ်ခြင်း၊ သင်္ဂါယနာတင်ခြင်းဟု အဓိပ္ပာယ် ရပါသည်။ **"သင်္ဂါယ"** ဟူသော ပါဠိအုပ်စုကို ဝိနည်းအဋ္ဌကထာတွင်- သင်္ဂါယတိ။ သင်္ဂါယေယျံ။ သင်္ဂါယနတ္ထံ။ သင်္ဂါယေယျာမ။ သင်္ဂါယိဿာမ။ သင်္ဂါယာမ။ သင်္ဂါယိတ္ဝာ။ သင်္ဂါယိတုကာမော။ သင်္ဂါယိတဗ္ဗော စသည်ဖြင့် အမျိုးမျိုးသုံးနှုန်းထားသည်ကို တွေ့ရသည်။

(၂) **"သင်္ဂီတိ"**၏အဓိပ္ပာယ်မှာ သံပြိုင်သီဆိုခြင်း၊ ပေါင်း၍ရွတ်ဆိုခြင်း၊ သင်္ဂါယနာတင်ခြင်းဟု အဓိပ္ပာယ်ရပါသည်။ **"သင်္ဂီတိ"** ဟူသော ပါဠိအုပ်စုကို ဝိနည်းအဋ္ဌကထာတွင် - သင်္ဂီတိက္ခန္ဓက ဓမ္မသင်္ဂီတိ။ သင်္ဂီတိယံ။ သင်္ဂီတဉ္စ။ အသင်္ဂီတဉ္စ။ သင်္ဂီတံ။ ပဌမမဟာသင်္ဂီတိ စသည်ဖြင့် အမျိုးမျိုးသုံးနှုန်းထားသည်ကို တွေ့ရသည်။

(၃) **"သင်္ဂဟ"** ၏အဓိပ္ပာယ်မှာ ပေါင်းယူခြင်း၊ အကျဉ်းအားဖြင့်ယူခြင်း၊ ရေတွက်ခြင်း၊ ချီးမြှင့်ခြင်း၊ ချီးမြှောက်ခြင်း၊ ထောက်ပံ့ခြင်း၊ ထောက်ပင့်ခြင်း ဟုအဓိပ္ပာယ်ရပါသည်။ **"သင်္ဂဟ"** ဟူသော ပါဠိအုပ်စုကို ဝိနည်းအဋ္ဌကထာတွင် - ဓမ္မဝိနယသင်္ဂဟံ။ သင်္ဂဟံ။ ဧဝံမဟာဝိဘင်္ဂသင်္ဂဟံ။ သင်္ဂဟမာရုဠှံ။ ဝိနယသင်္ဂဟာဝသေန။ သုတ္တသင်္ဂဟော။ တိဝဂ္ဂသင်္ဂဟာနိ။ ပဉ္စဒသဝဂ္ဂသင်္ဂဟာနိ။ ဥဒ္ဒါနသင်္ဂဟ။ ဝဂ္ဂသင်္ဂဟ။ ပေယျာလသင်္ဂဟ။ သင်္ဂဟပ္ပဘေဒံ စသည်ဖြင့် အမျိုးမျိုးသုံးနှုန်းထားသည်ကို တွေ့ရသည်။

**"သင်္ဂါယနာ"** ဟူသော ဝေါဟာရ၏အမည်နာမကို အနှစ်ချုပ်





လိုက်သော် - **"သမောဓာနေတွာ ဂါယန္တိ ဧတ္ထာတိ သင်္ဂါယနာ"** ဟူ၍ ဝိဂ္ဂဟပြုနိုင်သည်။ အနက်အဓိပ္ပာယ်မှာ -

**"ဧတ္ထသမယေ = ဤသို့သော အခါသမယ၌ (ဝါ) အစည်းအဝေး ၌။ သမောဓာနေတွာ = ပေါင်းရုံး၍ (ဝါ) စုပေါင်း၍။ ဂါယန္တိ = ရွတ်ဆို ကြကုန်၏။ ဣတိတသ္မာ = ထိုသို့စုပေါင်း၍ ရွတ်ဆိုရာဖြစ်သော သတ္တိ ကြောင့်။ သင်္ဂါယနာ = သင်္ဂါယနာ မည်၏။"** ဟူ၍ ဖြစ်ပါသည်။ ဤသည်ပင်လျှင် သင်္ဂါယနာ၏ အဓိပ္ပာယ်ပင်တည်း။



## ဗုဒ္ဓသာသနာတော်၏ ထေရဝါဒမူသုံးချက်

ကမ္ဘာပေါ်တွင် သက်တမ်းအရှည်ကြာဆုံးသော အဖွဲ့အစည်းကို ပြပါဟုဆိုလျှင် **"မြတ်ဗုဒ္ဓ၏သံဃာ့အဖွဲ့အစည်း"** ကိုပင် ပြရမည်ဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ပထမသင်္ဂါယနာတင် ရဟန္တာမထေရ်မြတ်ကြီး ငါးရာတို့သည် အလွန်တန်ဖိုးရှိသော **"ထေရဝါဒမူသုံးချက်"** ကို တညီတညွတ်တည်း သဘောတူလက်ခံတော်မူကာ ချမှတ်နိုင်ခဲ့သောကြောင့် ဖြစ်၏။ ယင်းအခြေခံမူကြီးသုံးချက်မှာ -

(၁) သံဃော အပညတ္တံ နပညပေသိ။

သံဃာတော်သည် ဗုဒ္ဓမပညတ်ခဲ့သည်ကို အသစ်တိုးချဲ့ ပညတ်ခြင်း မပြုအံ့။

(၂) ပညတ္တံ နသမုစ္ဆိန္ဒတိ။

ဗုဒ္ဓပညတ်ခဲ့သည်ကို ဖျက်ဆီးခြင်း (နုတ်ပယ်ခြင်း) မပြုအံ့။

(၃) ယထာ ပညတ္တံ သိက္ခာပဒေသု သမာဒါယ ဝတ္တတိ။

ဗုဒ္ဓပညတ်တော်မူခဲ့သည့် သိက္ခာပုဒ် (ဥပဒေ=စည်းကမ်း)များ အတိုင်း ရိုသေစွာ လိုက်နာကျင့်သုံးပါအံ့ ဟူ၍ဖြစ်ပါသည်။

မြတ်ဗုဒ္ဓ၏ တပည့်သားသာဝက သံဃာတော်အပေါင်းတို့သည်





အဆိုပါ မူကြီးသုံးချက်ကို လက်ကိုင်ထား၍ မြတ်ဗုဒ္ဓပညတ်တော်မူထားခဲ့သည့် ဝိနည်းသိက္ခာပုဒ် (ဥပဒေ=စည်းကမ်း) များကို **"ဖြည့်စွက်ခြင်း, နုတ်ပယ်ခြင်း"** လုံးဝမပြုလုပ်ကြဘဲ ဗုဒ္ဓပညတ်တော်မူထားခဲ့သည့်အတိုင်း ရိုသေလေးစားစွာ ထိန်းသိမ်းစောင့်ရှောက်လာခဲ့ကြပါသည်။ ဤကဲ့သို့ ကျင့်သုံးသော အယူဝါဒကို **"ထေရဝါဒ"** ဟုခေါ်ပါသည်။ သဘောတူ ပေါင်းစုဖွဲ့စည်းထားသော အဖွဲ့အစည်းကို **"ထေရဝါဒဂိုဏ်း"** ဟုခေါ်ပြီး လျှင်၊ တစ်သဝေမတိမ်း လိုက်နာကျင့်သုံးသည့် ပုဂ္ဂိုလ်များကို **"ထေရဝါဒီ ပုဂ္ဂိုလ်"** ဟု ခေါ်တွင်ခဲ့လေသည်။



## သင်္ဂါယနာတင်ရခြင်းအကြောင်း

ရဟန်းသံဃာတော်များသည် သင်္ဂါယနာကို အကြောင်းမဲ့သက်သက် တင်ခဲ့ကြသည်မဟုတ်။ သင်္ဂါယနာတင်ရန် အကြောင်းကိစ္စပေါ်ပေါက်လာမှသာ တင်ခဲ့ကြခြင်းဖြစ်သည်။ မြတ်ဗုဒ္ဓသာသနာတော်၌ သင်္ဂါယနာတင်သင့်သော အချိန်အခါမျိုးသည် ရှိခဲ့၏။ ယင်းအချိန်အခါမျိုးဆိုသည်မှာ သင်္ဂါယနာတင်ရခြင်းအကြောင်းကို ဆိုလိုပါသည်။ ယင်းသင်္ဂါယနာတင်ရခြင်းအကြောင်းမှာ -

(၁) သာသနာတော်နှင့်ပတ်သက်၍ အယူအဆကွဲပြားလျက် ငြင်းခုံခြင်း = ဝိဝါဒဖြစ်ပေါ်လာသော အခါ၌လည်းကောင်း၊

(၂) သာသနာ့အန္တရာယ် ရန်စွယ်များနှင့် သံဃာတု၊ သံဃာယောင်များ ပေါ်ပေါက်လာသော အခါ၌လည်းကောင်း၊

(၃) သာသနာတော်ကြီး ညှိုးနွမ်းမှေးမှိန်မည့်လက္ခဏာများ ဖြစ်ပေါ်လာသော အခါ၌လည်းကောင်း - ဟူ၍ သုံးပါးရှိပါသည်။

ယင်းအကြောင်းသုံးပါးတို့တွင် တစ်ပါးပါးနှင့် ညီညွတ်လာပါက ထေရဝါဒသာသနာ့ဝန်ဆောင် ဆရာတော်သံဃာတော်များ တိုင်ပင်





ညီညွတ်၍ မင်း၏အကူအညီကိုရယူကာ သင်္ဂါယနာတင်တော်မူခဲ့ကြပါသည်။ မြတ်ဗုဒ္ဓပရိနိဗ္ဗာန်စံတော်မူပြီးနောက် ထေရဝါဒဗုဒ္ဓဘာသာထွန်းကားရာ နိုင်ငံဒေသအသီးသီးတို့၌ သင်္ဂါယနာတင်ခဲ့ကြသော သမိုင်းကြောင်းသည် အထင်အရှားရှိခဲ့ကြ၏။ ယင်းတို့အနက် ရခိုင်ပြည်၌တင်ခဲ့ကြသော သင်္ဂါယနာတင်သမိုင်းကြောင်းကို ဆက်လက်တင်ပြပါမည်။



## ရခိုင်ပြည်နှင့် ဗုဒ္ဓသာသနာ

ထေရဝါဒဗုဒ္ဓဘာသာဝင်တို့သည် မြတ်ဗုဒ္ဓသာသနာတော်၌ သင်္ဂါယနာကို အိန္ဒိယ၊ သီဟိုဠ်၊ ရခိုင်၊ မြန်မာ စသော နိုင်ငံဒေသအသီးသီးတို့၌ သင်္ဂါယနာတင်ခဲ့ကြရာ ရခိုင်ပြည်၌တင်ခဲ့ကြသော သင်္ဂါယနာကို သိရှိသူ အလွန်နည်းပါးနေပြီဖြစ်၏။ ခိုင်မာသော သမိုင်းအထောက်အထား ထင်ရှားရှိခဲ့ပါလျက်၊ စနစ်တကျ မှတ်တမ်းတင်ထားရှိမှု မပြုနိုင်ကြဘူးဆိုပါလျှင် ဒဏ္ဍာရီဆန်ဆန် ဖြစ်သွားနိုင်သည်ကို အလွန်စိုးရိမ်မိပါသဖြင့် **"သမိုင်းကျမ်းငယ်တစ်စောင်"** ရေးသားပြုစုပြီး တင်ပြရခြင်း ဖြစ်ပါသည်။

ရခိုင်ပြည်၌တင်ခဲ့ကြသော သင်္ဂါယနာကို လူအများ အသိနည်းသွားရခြင်းမှာ ရခိုင်ပြည်၏ကံကြမ္မာကြောင့် ဖြစ်၏။ ရခိုင်ပြည်၏ဗုဒ္ဓသာသနာတော်ကို တတိယဓညဝတီခေတ် (ဘီစီ-၅၆၉-မှ-အေဒီ-၃၂၇-ထိ)၊ မဟာသက္ကရာဇ်-၁၂၃-ခု၊ ဘီစီ-၅၆၉-ခု၊ အချိန်ကာလကပင် မြတ်ဗုဒ္ဓကိုယ်တိုင် နောက်ပါရဟန္တာ-၅၀၀ နှင့်အတူ ကြွရောက်၍ သာသနာပြုထားခဲ့ခြင်း ဖြစ်သည်။ ယင်းအချိန်ကာလသည်ကား ဗုဒ္ဓဘာသာဝင်





ရခိုင်တစ်မျိုးသားလုံး၏ ရင်ထဲ,နှလုံးသားထဲ၌ မေ့ပျောက်၍ မရစကောင်းသော သမိုင်းဝင်ဖြစ်ရပ်တစ်ခုအနေဖြင့် ယနေ့ထက်တိုင် စွဲထင်ကျန်ရစ်ခဲ့ပေတော့သည်။

ဗုဒ္ဓဘုရားရှင်ရှေ့တော်မှောက်၌ ရခိုင်ကြေးသွန်းအတတ်ပညာရှင်တို့ သွန်းလုပ်ခဲ့ကြသော **"ကမ္ဘာကျော်-မဟာမုနိဗုဒ္ဓ ဆင်းတုတော်ကြီး"** မှာ **"ရခိုင်ပြည်၏ ဗုဒ္ဓသာသနာ့သမိုင်း"** တွင် ထင်ရှားသော သမိုင်းမှတ်တိုင်ကြီးတစ်ခုလည်း ဖြစ်ခဲ့ပါသည်။ ယင်းခေတ်ယင်းကာလက ကမ္ဘာ ပေါ်တွင် **"မဟာမုနိ"** ကဲ့သို့ ဗုဒ္ဓဆင်းတုတော်ကြီးမျိုး ရခိုင်မှတစ်ပါး မည်သည့်နိုင်ငံအရပ်ဒေသတွင်မျှ မရှိသေးချေ။

ဤအကြောင်းကို နိုင်ငံခြားသား အင်္ဂလိပ်စာရေးဆရာကြီး မောရစ်ကောလစ်က ရခိုင်ပြည်အား (The Land of the Great image) = **"ဆင်းတုတော်ကြီး ကိန်းဝပ်ရာမြေ"** ဟူသော နာမည်ဖြင့် စာအုပ် ရေးသားထုတ်ဝေခဲ့ပါသည်။ မဟာမုနိဘုရားကြီးကြောင့် ရခိုင်ပြည်သည် ခေတ်အဆက်ဆက် ဂုဏ်တင်ခဲ့သလို၊ ထင်ရှားကျော်ကြားမှုကိုလည်း ရရှိခဲ့ပါသည်။ ရခိုင်ပြည်၏သာသနာသည် **"ထေရဝါဒလော၊ မဟာ ယာနလော"** ဟူ၍ မေးနေစရာအကြောင်းမရှိပါ။ အဘယ်ကြောင့်ဆိုသော် ရခိုင်ပြည်၏ဗုဒ္ဓသာသနာတော်သည် ထေရဝါဒ ဗုဒ္ဓသာသနာစစ်မှန် ကြောင်းကို **"မဟာမုနိဘုရားသမိုင်း"** က အခိုင် လုံဆုံး သက်သေပြုလျက် ရှိနေသောကြောင့် ဖြစ်၏။ ရခိုင်လူမျိုးတို့၏ နှစ်ပေါင်းနှစ်ထောင်ကျော် ကြာမြင့်လာသည့်တိုင်အောင် ခိုင်မြဲစွာ တည်ရှိနေသော ထိုယုံကြည်ချက် ကို မည်သည့်နည်းနှင့်မျှ ဖျောက်ဖျက်၍ ရလိမ့်မည်မဟုတ်ချေ။ ယင်း စိတ်ဓာတ်သည်ကား ရခိုင်လူမျိုးတို့၏

**“သံမဏိစိတ်ဓာတ်”** ပင်တည်း။

အဆိုပါ ဗုဒ္ဓဆင်းတုတော်ကြီးကို တိုင်းတစ်ပါးမှ လိုချင်လွန်းအားကြီးသဖြင့် တိုက်ခိုက်သိမ်းယူရန် ကြံစည်အားထုတ်ခဲ့ကြသည်မှာ အကြိမ်ကြိမ်ရှိခဲ့ကြောင်း သမိုင်းက သက်သေပြုလျက် ရှိနေပေသည်။ နောက်ဆုံးပိတ် အေဒီ-၁၇၈၄-ခုနှစ်တွင် အမရပူရမှ ဘိုးတော်ဗဒုံမင်း (မောင်ဝိုင်း) ၏သား မောင်ပေါ်သည် ရခိုင်ကို စစ်မကြေညာဘဲ လာရောက်တိုက်ခိုက်ပြီး **“မဟာမုနိဘုရားကြီး”** ကို အပြီးတိုင် သိမ်းပိုက်ယူဆောင်သွားခဲ့ကြသဖြင့် ယခုအခါ **“မန္တလေးမြို့”** ၌ သီတင်းသုံးလျက် ရှိနေပေတော့သည်။

အဆိုပါ မဟာမုနိဘုရားသမိုင်းနှင့်ပတ်သက်၍ မိမိလူမျိုးတို့၏ နေရာဒေသထက် ဗုဒ္ဓဘာသာ,သာသနာ ရောက်ရှိမှုသမိုင်း၊ သက်ဝင်ယုံကြည်မှုသမိုင်း၊ ကိုးကွယ်ဆည်းကပ်မှုသမိုင်း ရှေးကျနေမှုကို မုဒိတာမပွားနိုင်သော သူများက သည်ကိစ္စမဖြစ်နိုင်ဟုဆိုကာ အမျိုးမျိုးဟောပြောရေးသားနေကြကြောင်း ကြားသိနေရပါသည်။

တတိယဓညဝတီခေတ်-ဘီစီ-၅၆၉ က ရခိုင်တို့၏ ကြေးသွန်းအတတ်ပညာထွန်းကားနေမှုကို မယုံကြည်နိုင်ဘူးဟုဆိုလျှင်၊ ယုံကြည်လက်ခံနိုင်လောက်သော သက်သေအထောက်အထားဖြင့် တင်ပြသွားပါမည်။

တတိယဓညဝတီခေတ် (ဘီစီ-၅၆၉-မှ-အေဒီ-၃၂၇-ထိ)၊ **“စန္ဒာသူရိယမင်း”** မှ (၁၄) ဆက်မြောက်၊ **“သူရိယကုလမင်း”** လက်ထက် (ဘီစီ-၁၁-မှ-အေဒီ-၂၅-ထိ) တွင် **“ပဉ္စလောဟာ”** ဖြင့် ဗုဒ္ဓရုပ်ပွားတော်များကို သွန်းလုပ်ပူဇော်ခဲ့ပါသည်။ ထိုအထဲတွင် **“စကြာမုနိ”**





အမည်ရှိ ဗုဒ္ဓရုပ်ပွားတော်မြတ်လည်း ပါဝင်ခဲ့ပါသည်။ သွန်းလုပ်သည့်သက္ကရာဇ်ကို ဘုရား၏စမွ ခဏ်နောက်ပိုင်းတွင် **“သက္ကရာဇ်-၅၂၀၊ သူရိယကုလ ကောင်းမှုတော်”** ဟူ၍ ကမ္ပည်းစာရေးထိုးပြီး မှတ်တမ်းတင်ထားသည်ကို တွေ့ရသည်။

အဆိုပါသက္ကရာဇ်မှာ ဤသို့ဖြစ်ပါသည်။ ရခိုင်ဘုရင် စန္ဒာသူရိယမင်းကြီးသည် **“ဇိဝကကိန်း”** အရ **“ရာလမာယုမင်း”** ဖြိုပြီးနောက် ရေတွက်လာသော သက္ကရာဇ် (၁၄၈) ကို အကြွင်းမဲ့ဖြိုခဲ့၏။ ထိုဖြိုခဲ့ပြီးသော သက္ကရာဇ်မှ ရေတွက်လာခဲ့သည့် **“ရခိုင်ကောဇာသက္ကရာဇ်”** ကို ဆိုလိုခြင်း ဖြစ်ပါသည်။ ယင်းသက္ကရာဇ်အရ **“စကြာမုနိ ကြေးသွန်းရုပ်ပွားတော် မြတ်”** ကို ဘီစီ (၁၀) ခု၊ သာသနာတော်သက္ကရာဇ်-၅၃၄-ခုတွင် သွန်း လုပ်ကြောင်း သိရှိရပါသည်။

[မှတ်ချက်။ ။ ယင်းဖော်ပြပါသက္ကရာဇ်မှာ ယခုမျက်မှောက်ခေတ် ရေတွက်နေကြသော ကောဇာသက္ကရာဇ် မဟုတ်ပါ။ ရခိုင်လူမျိုးတို့၏ ရှေးက သက္ကရာဇ်ဖြိုခဲ့ကြပုံ သမိုင်းကြောင်းကို သိရှိလိုပါက **“ရက္ခပူရဒွါဒသရာသိဋီကာ”** အမည်ရှိ **“ရခိုင့်ဌာနီလရာသီကျမ်း”** စာအုပ် စာမျက်နှာ-၅၀၉ တွင်ပါရှိသည့် **“ရခိုင်ပြည်၌သက္ကရာဇ်ဖြိုခြင်းအကြောင်း”** ဟူသော အခန်းကဏ္ဍတွင် လေ့လာဖတ်ရှုနိုင်ပါသည်။ ။]

အဘယ်ကြောင့်ဆိုသော် **“ရခိုင်ဘုရင်သူရိယကုလမင်း”** သည် ကောဇာသက္ကရာဇ် ၅၁၉-မှ-၅၅၅-ထိ နှစ်ပေါင်း (၃၆) နှစ်တိုင်တိုင် ရခိုင်ထီးနန်းကို စိုးစံအုပ်ချုပ်သွားခဲ့သောကြောင့် ဖြစ်၏။ အဆိုပါ **“စကြာမုနိ”** ဗုဒ္ဓရုပ်ပွားတော်မြတ်ကို ကြည့်ခြင်းအားဖြင့်

တတိယ ဓညဝတီခေတ် ကာလကပင် ရခိုင်လူမျိုးတို့သည် ကြေးသွန်း အတတ်ပညာကို တတ်မြောက် ထားကြပြီးဖြစ်ကြောင်းနှင့် စာပေရေး သားခြင်း အတတ်ပညာကိုပါ တတ်မြောက်နေကြပြီးဖြစ်ကြောင်း ငြင်းချက်မထုတ်နိုင်သော သက်သေ အထောက်အထားတစ်ခုပင် ဖြစ်ပါ သည်။ ယင်းဘုရားကို ကိုယ်တိုင်ဖူးတွေ့လိုပါက စစ်တွေမြို့၊ **"လောကာ နန္ဒာဘုရားကုန်းမြေ"** ပေါ်တွင် ဂန္ဓကုဋီတိုက်ဖြင့် သီတင်းသုံးစမ္ပာယ် လျက် ရှိနေပါသည်။

ဤကဲ့သို့ သက်သေအထောက်အထားဖြင့် **"လက်ဆုပ်လက်ကိုင်"** ပြနေသည်ကိုပင်လျှင် **"မဖြစ်နိုင်၊ မယုံကြည်နိုင်"** ဟု အကြောက်အကန် ငြင်းဆန်လျက် **"မုန်လာဥ၊ မုန်လာဥ"** လုပ်ချင်နေသူတွေ အတွက် ကတော့ လုပ်နေသူတို့၏တာဝန်သာ ဖြစ်ပေလိမ့်မည်။

**"သက္ကရာဇ်-၅၂၀၊ သူရိယကုလကောင်းမှုတော်"** ဟူသော စာ တမ်းမှာ အိန္ဒိယပြည်၊ မြောက်ပိုင်းဗြဟ္မီအက္ခရာဖြင့် ရေးထိုးထားခြင်း ဖြစ် ၍၊ တတိယဓညဝတီခေတ်တွင် ရခိုင်ပြည်၌ **"ဗြဟ္မီအက္ခရာ၊ ဗြဟ္မီ စာပေ"** ထွန်းကားနေပြီဖြစ်ကြောင်းကိုလည်း သိရှိနိုင်ပါသည်။ ယင်း ဗြဟ္မီအက္ခရာ ဗြဟ္မီစာပေ စတင်ပေါ်ထွန်းရာ မူရင်းဒေသမှာ အိန္ဒိယ၊ ဂင်္ဂါမြစ်ဝှမ်းဒေသ ဖြစ်၏။

ယင်းဒေသသည် ယနေ့မျက်မှောက်ခေတ် မြန်မာနိုင်ငံ၌ထွန်း ကားလျက်ရှိနေသော မြန်မာစာ (သို့မဟုတ်) ရခိုင်စာ၏ စတင်မြစ်ဖျားခံ ခဲ့ရာ အခြေခံဒေသပင် ဖြစ်ပါသည်။ ယင်းအချိန်ကာလက ယင်းဒေသ နှင့် ရခိုင်ပြည်သည် နယ်မြေချင်းထိစပ်လျက် ရှိ၏။ ထို့ကြောင့် **"ရခိုင် စာအစ၊ ဗြဟ္မီအက္ခရာက"** ဟူသော မော်ကွန်းကမ္ပည်းစာကိုပင် ထိုး





လောက် ပါသည်။

ရခိုင်ပြည်၏ဗုဒ္ဓသာသနာ ဤမျှရှေးကျခဲ့မှုကို **"မယုံကြည် နိုင်ဘူး၊ လက်မခံနိုင်ဘူး"** ဟုဆိုလာလျှင်လည်း ဘာမှမတတ်နိုင်ချေ။ **"သမိုင်း သုတေသီတို့၏တာဝန်က - အမှန်ကို အမှားမလုပ်၊ အမှား ကို အမှန်မလုပ်၊ အမှန်ကို အမှန်အတိုင်း၊ အရှိကို အရှိ အတိုင်း"** အများပြည်သူတို့ သိရှိ နိုင်ကြစေရန် ရေးသားဖော်ထုတ်တင်ပြရမည့် တာဝန်သည်သာ အဓိက ဖြစ်ပါကြောင်း အထူးသိစေအပ်ပါသည်။

ရခိုင်လူမျိုးတို့သည် တတိယဓညဝတီခေတ် **"သူရိယ ကုလ မင်း"** လက်ထက် ဘီစီ (၁၀) ခု၌ သွန်းလုပ်ခဲ့ကြသော **"စကြာမုနိ"** အမည်ရှိ ဗုဒ္ဓရုပ်ပွားတော်မြတ်၏ **"စမ္မခဏ်"** ၌သာ ကမ္ပည်းစာ ရေးထိုး ခဲ့ကြသည် မဟုတ်။ ဝေသာလီကျောက်လှေကားခေတ်၊ လေးမြို့ခေတ်၊ မြောက်ဦး ခေတ်တို့၌ ထုဆစ်၊ သွန်းလုပ်ခဲ့ကြသော ဗုဒ္ဓရုပ်ပွားတော် များ၌လည်း ဤကဲ့သို့ ကမ္ပည်းစာတမ်းများ ရေးထိုးထားရှိခဲ့ကြသည်ကို တွေ့ရှိရပါ သည်။

အလားတူ ဝေသာလီကျောက်လှေကားခေတ်က ရခိုင်လူမျိုးတို့ ရေးထိုးခဲ့ကြသော **"ကမ္ဘာကျော် - အာနန္ဒစန္ဒြကျောက်စာ"** အပါ အဝင်၊ ဒင်္ဂါး၊ ခေါင်းလောင်း၊ ဆီမီးခွက်၊ ကြေးနီပြား၊ ကျောက်ပြား၊ ကျောက်တိုး၊ စတူပါ၊ ဘုရားစမ္မခဏ်၊ ပေ၊ ပုရပိုက် စသည်တို့၌လည်း စာပေရေးထိုး ကာ မှတ်တမ်းတင်ထားရှိခဲ့ကြသည်ကို တွေ့ရသည်။ အများဆုံးတွေ့ရှိ ရသည်မှာ **"ပိဋကတ်သုံးပုံ၏အနှစ်ချုပ်"** (သို့မဟုတ်) **"အဆီအနှစ်"** ဟုခေါ်ဆိုအပ်သော **"ယေဓမ္မာဂါထာတော်"** ပင် ဖြစ်သည်။ ရခိုင်ပြည်၌ ထွန်းကားလျက်ရှိနေသော သာသနာတော်သည်

**"ထေရဝါဒလော,မဟာ ယာနလော"** ဟု မေးနေစရာအကြောင်း မရှိပါ။ ထေရဝါဒဗုဒ္ဓသာသနာ စစ်မှန်ကြောင်းကို ယင်း **"ယေဓမ္မာ ဂါထာတော်"** က သက်သေပြုညွှန်း ဆိုလျက် ရှိနေပေတော့သည်။

ရခိုင်ပြည်၌ အလွန်ရှေးကျသည့် အချို့သော သမိုင်းဝင်ပစ္စည်း များဆိုပါလျှင် အန္တရာယ်ကြောင့် လျှို့လျှို့ဝှက်ဝှက် သိမ်းဆည်းထားကြ ရသော အဆင့်မှာပဲ ရှိနေသေးကြောင်း တင်ပြအပ်ပါသည်။

ရခိုင်တို့၏ တတိယဓညဝတီခေတ်သည် အေဒီ-၃၂၇ တွင် သက်တမ်းကုန်ဆုံးသွားခဲ့၏။ ယင်းမှဆက်လက်၍ ဝေသာလီကျောက် လှေကားခေတ် (အေဒီ-၃၂၇-မှ-၈၁၈-ထိ) တွင်လည်းကောင်း၊ လေးမြို့ ခေတ် (အေဒီ-၈၁၈-မှ-၁၄၃၀-ထိ) တွင်လည်းကောင်း၊ မြောက်ဦးခေတ် (အေဒီ-၁၄၃၀-မှ-၁၇၈၄-ထိ) တွင်လည်းကောင်း ရခိုင်ပြည်၏ဗုဒ္ဓသာသနာ သည် နေလို,လလို ထွန်းလင်းတောက်ပခဲ့ပါသည်။ ယင်းသို့ ထွန်းလင်း တောက်ပခဲ့ရာမှ ကောဇာ-၁၁၄၆-ခု၊ (အေဒီ-၁၇၈၄) အရောက်တွင် ရခိုင်ပြည်၏ဗုဒ္ဓသာသနာသည် ညှိုးမှိန်ခဲ့ရ၏။

ထီးကျိုးစည်ပေါက် **"မဟာမုနိ"** ပါ တိုင်းတစ်ပါးသို့ ရောက်ခဲ့ရ သည့်အပြင်၊ ပိဋကတ်သုံးပုံအစုံစုံနှင့်တကွ နက္ခတ်၊ ဗေဒင်၊ ရာဇဝင်၊ ဆေးကျမ်း၊ ဂဏန်းသင်္ချာကျမ်း၊ နာရီကျမ်း၊ နီတိကျမ်း၊ ဓမ္မသတ်ကျမ်း၊ လျှောက်ထုံးကျမ်းကအစ ပြည်တွင်းပြည်ပ ကျမ်းပေါင်းများစွာတို့သည် လည်း တိုင်းတစ်ပါးသို့ ရောက်ခဲ့ရပါသည်။ ဗမာမင်းတို့သည် ရွှေ၊ ငွေ၊ ကျောက်သံပတ္တမြားနှင့် ဘုရားဆင်းတုအမျိုးမျိုး၊ စာပေကျမ်းဂန်အပါ အဝင် တန်ဖိုးရှိသော ပစ္စည်းမှန်သမျှတို့ကို သူတို့၏သစ္စာတော်ခံရခိုင် လေးမြို့ဝန်များမှတစ်ဆင့် ခရစ်အေဒီ-၁၇၈၄-မှ-၁၈၂၄-အထိ နှစ်ပေါင်း





(၄၀) တိုင်တိုင် သိမ်းပိုက်ယူဆောင်ခဲ့ကြပါသည်။

၄င်းအပြင် ကုန်းဘောင်ခေတ် မင်းတုန်းမင်းလက်ထက် (အေဒီ ၁၈၅၃-မှ-၁၈၇၈-ထိ)၊ ကောဇာ-၁၂၃၀-ခု၊ (အေဒီ-၁၈၆၈) တွင် ဗမာ ရဟန်းတော်များတင်ခဲ့ကြသည့် သင်္ဂါယနာပွဲကို **"ပဉ္စမအကြိမ်"** ဟု မှတ် တမ်းတင်ခဲ့ကြပြန်၏။ ယင်းမှတ်တမ်းသည် ရခိုင်မှာတင်ခဲ့သော **"ပဉ္စမအကြိမ်"** ကို အမှန်တကယ်မသိ၍လော၊ (သို့မဟုတ်) ရခိုင် တစ်ပြည်လုံး သူတစ်ပါးလက်အောက်သို့ ကျရောက်နေကြရသော အချိန် ကာလဖြစ်နေ ၍လော၊ (သို့မဟုတ်) ရခိုင်တို့၏သမိုင်းမှတ်တမ်းများ ဆုံးရှုံးခြင်းသို့ ရောက်ရှိကုန်ကြ၍လော၊ (သို့မဟုတ်) ရခိုင်လူမျိုးတို့မှာ သူတစ်ပါးလက်အောက် ကျရောက်နေကြရသဖြင့် သမိုင်းမှတ်တမ်း တင်စရာမလိုဟူ၍ ချန်လှပ် ထားခဲ့ကြခြင်းလောဟု စဉ်းစားတွေး တောစရာတွေ အများကြီးရှိနေခဲ့ပါသည်။ ယင်းအချိန်ကာလက ရခိုင် လူမျိုးတို့အနေဖြင့် မည်မျှပင် အကြံပြုတင်ပြကြသော်လည်း အလေး အနက်ထား၍ စဉ်းစားပေးမည့်သူမရှိ သော အချိန်ကာလသို့ ရောက်ရှိနေ သောကြောင့်လည်း ဖြစ်နိုင်ပါသည်။

ခရစ်အေဒီ-၁၈၂၄-၂၅-ခုနှစ်က အင်္ဂလိပ်တို့သည် ရခိုင်နှင့် တနင်္သာရီကို သိမ်းပိုက်ခဲ့ကြ၏။ ထိုအခါ ရခိုင်ပြည်နှင့် ရခိုင်လူမျိုးတို့ သည် ဗမာမင်းတို့လက်အောက်က လွတ်မြောက်သွားခဲ့ကြရသည်ဟု ဆို နိုင်သော်လည်း၊ အင်္ဂလိပ်တို့လက်အောက် ကျွန်သားပေါက်ဘဝဖြင့် ဆက် လက်တည်ရှိနေကြရသော ကာလဖြစ်ပါသည်။ ရခိုင်တို့အနေဖြင့် ကိုယ့်ကြမ္မာ ကိုယ်ဖန်တီးခွင့်မရရှိကြသည့်အတွက်ကြောင့်လည်း သမိုင်း၊ ရာဇဝင်၊ စာပေ၊ ယဉ်ကျေးမှု၊ အနုပညာတို့မှာ မှေးမှိန်လျက် ပျောက်ကွယ်လုမတတ်

ရှိနေခဲ့ပါသည်။ ယင်းကဲ့သို့ အချိန်အခါမျိုးမှာမှ **"ဗမာဘုရင် မင်းတုန်းမင်း"** လက်ထက်တွင် ဗမာရဟန်းတော်တို့ တင်ခဲ့ကြသော သင်္ဂါယနာကို **"ပဉ္စမ အကြိမ်"** ဟု သတ်မှတ်လိုက်ကြသည့် အတွက် ကြောင့် ရခိုင်ပြည်၊ ဝေသာ လီကျောက်လှေကားခေတ်၌ ရခိုင်နှင့် သီဟိုဠ်သံဃာတော်တို့ စုပေါင်း တင်ခဲ့ကြသည့် **"ပဉ္စမအကြိမ် သင်္ဂါ ယနာတင်ပွဲ"** မှာ စာရင်း မဝင်သော အဖြစ်သို့ ဆိုက်ရောက် သွားခဲ့ရ ပြန်ပါသည်။ ယင်းအခြေအနေမျိုးသို့ ရောက်အောင် **"အစီအစဉ် ရှိရှိ ကြံစည်အား ထုတ်ခဲ့ကြသလော"** ဟု စဉ်းစားတွေးတောစရာတွေ ရှိ နေပါသည်။

မိမိလူမျိုးတို့တွင် အမှန်တကယ်ရှိခဲ့ကြသော သမိုင်းမှတ်တမ်းများကို သူတစ်ပါးက စာရင်းဝင်အောင် မှတ်တမ်းတင်ပေးဖို့ထက်၊ မိမိတို့သမိုင်းကို မိမိတို့ကိုယ်တိုင် ခိုင်ခိုင်မာမာ မှတ်တမ်းတင်ပြုစုထားရှိကြဖို့သာ အရေးကြီးသည်။ သို့ဖြစ်၍ မြတ်ဗုဒ္ဓသာသနာတော်၌ မင်းတို့၏ ပစ္စည်းလေးပါးချီးမြှောက်မှုကိုခံယူ၍ နိုင်ငံဒေသအသီးသီးတို့၌ သံဃာတော်များ တင်ခဲ့ကြသည့် **"သင်္ဂါယနာတင်ပွဲသမိုင်းကြောင်း"** ကို စနစ် တကျရေးသားတင်ပြသွားပါမည်။

**"သင်္ဂါယနာတင်ခြင်း"** ဟူသော လုပ်ငန်းကိစ္စရပ်သည် သာမန်လုပ်ငန်းကိစ္စမျိုးမဟုတ်ပါ။ နိုင်ငံအတွက်ရော၊ သာသနာအတွက်ပါ အလွန်အရေးပါသော လုပ်ငန်းကြီးတစ်ခုဖြစ်ပါသည်။ နိုင်ငံအတွင်းရှိ သင်္ဂါယနာတင်ရန် ဝန်ဆောင်ဆရာတော်များနှင့် တိုင်းပြည်အုပ်ချုပ်သူ မင်းအစိုးရတို့ တိုင်ပင်ညီညွတ်ပြီးမှ ဆောင်ရွက်ရသော လုပ်ငန်းမျိုးဖြစ်ပါသည်။ မင်းအစိုးရ၏ အကူအညီအထောက်အပံ့မပါဘဲ သင်္ဂါယနာတင်ရန် ကိစ္စမှာ လုံးဝမဖြစ်နိုင်ပါ။ ထို့ကြောင့် မင်းအစိုးရ၏အကူအညီ





များစွာလိုအပ်ပါသည်။

သင်္ဂါယနာတင်ခြင်းကိစ္စမှာ မကြာမကြာ ဆောင်ရွက်ကြရသော လုပ်ငန်းမျိုးလည်း မဟုတ်ပါ။ အကြောင်းကိစ္စပေါ်ပေါက်လာမှသာ ပြုလုပ်ကြရသော လုပ်ငန်းမျိုးဖြစ်၍၊ တစ်ကြိမ်နှင့်တစ်ကြိမ် အလွန်ကြာမြင့်မှသာ ပြုလုပ်တတ်ကြပါသည်။ မြတ်ဗုဒ္ဓ၏သာသနာ့သမိုင်းတွင် ထေရဝါဒဗုဒ္ဓဘာသာထွန်းကားရာ နိုင်ငံဒေသအသီးသီးတို့၌ သင်္ဂါယနာတင်ခဲ့ကြပုံ သမိုင်းကြောင်းကို စာဆိုရှင်များ၏သင်္ဂါယနာတင် **"သမိုင်းဝင်ကဗျာ"** များနှင့်ပူးတွဲ၍ ရေးသားတင်ပြသွားပါမည်။



## **"အိန္ဒိယ၌ ပဌမသင်္ဂါယနာတင်ခြင်း"**

ဗုဒ္ဓဘုရားရှင်သည် မဟာသက္ကရာဇ်-၁၄၈-ခု၊ ကဆုန်လပြည့်၊ အင်္ဂါနေ့၊ ခရစ်မပေါ်မီ ဘီစီ-၅၄၄-ခုနှစ်တွင် ပရိနိဗ္ဗာန်စံပြီးသည့်နောက် လေးလမြောက် (သုံးလနှင့်ငါးရက်) အကြာတွင် **"သုဘဒ္ဒ"** အမည်ရှိသော ရဟန်းကြီး၏ သာသနာတော်ကို စော်ကားလာသည့်စကားကြောင့် **"အသျှင်မဟာကဿပမထေရ်"** အမှူးပြုသော ရဟန္တာမထေရ် (၅၀၀) တို့သည် အဇာတသတ်မင်းကြီးကို အမှီပြု၍ မဂဓတိုင်း၊ ရာဇဂြိုဟ်ပြည်၊ ဝေဘာရတောင်နံဘေး စရည်းပင်ရောက်ရာ **"သတ္တပဏ္ဏိလိုဏ်ဂူဝ"** ၌ (၇) လပတ် လုံး **"မူခါရူဋ္ဌ-ပဌမသင်္ဂါယနာ"** တင်တော်မူခဲ့ကြပါသည်။

ဤအကြောင်းကို ကုန်းဘောင်ခေတ် **"စာဆို-ဦးယာ"** က **"အဏ် ချင်းကဗျာ"** ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုခဲ့ပါသည်။

မင်းချင်းလေ။ ။ ကုသိနာရုံ။ ပန်းရဂုံဝယ်။ ဘုံပြီဿလင်္ဂ။
ပြည့်ဝန်းရက်၌။ ဘုံစက်မပြန်။ သုံးနိဗ္ဗာန်တွင်။ နှစ်တန်ကူးမြောက်။ ထွန်း
တောက်ကိုယ်ဝါ။ မင်းဘဒ္ဒါနှင့်။ ပြဟ္မာအသွင်။ လူကရှင်သို့(သည်)။ ခုတင်
တေရသ်။ သူ့ထက်မြတ်သား။ ထေရ်ကဿပ။ သာဝကတို့။ ခ,ခ,ပဥ္စာ။





ရဟန္တာနှင့်။ ပြည်ရာဇဂြိုဟ်။ နဂိုရ်ရိုစိုးခြင်း။ သံဝေပြင်းသား။ မင်းဇာ
တသတ်။ သမုနတ်ကို။ ထေရ်မြတ်တစု။ အမှီပြု၍။ ငါးခုသာတောင်။
ပြည်ရန်အောင်ဝယ်။ မြရောင်ဆိုင်းဆိုင်း။ ညို့ညို့မှိုင်းသား။ ခက်ကျိုင်း
ညွှန့်ရှင်။ စရည်းပင်နှင့်။ ခေါ်တွင်ပဗ္ဗတ။ ဝေဘာရဟု။ သာလှရိပ်ချမ်း။
လိုဏ်သာဝှမ်းဝယ်။ ကျမ်းပုဒ်ပဒ။ ညှိနှိုင်းဆ၍။ ပထမသင်္ဂါယနာ။ တင်
သောခါဝယ်။ ကြယ်မာဃကြီး။ လနှင့်နီးမှ။ ပြီးစီးအောင်မြင်။ ယင်း
သဘင်ဝယ်။ အရှင်အာနန်။ အရဟန်စစ်။ တိုင်းမြောက်ဖြစ်သည်။ ။
ရှစ်ဆယ်ကျော်သက်တွင်တည့်လေး။ ။ သူကောင်းဖော်ရွှေမင်းချင်းတို့။



## "အဓိဋ္ဌာန်ဒုတိယသင်္ဂါယနာတင်ခြင်း"

ဒုတိယသင်္ဂါယနာတင်ခြင်းကို ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် သာသနာတော်သက္ကရာဇ်-၁၀၀-ခု၊ ခရစ်မပေါ်မီ ဘီစီ-၁၄၄ နှစ်အရောက်တွင် ဝေသာလီပြည်၊ ကာလာသောကမင်းကြီးကို အမှီပြု၍ အသျှင်အာနန္ဒာ၏တပည့်ဖြစ်သော **"အသျှင်မဟာယသမထေရ်"** အမှူး ပြုသော ရဟန္တာမထေရ် (၇၀၀) တို့သည် ဝါလိကာရာမ (ဝါလိကာရုံ) ကျောင်းတော်ကြီး၌ (၈) လပတ်လုံး **"မုခါရုဠ-ဒုတိယသင်္ဂါယနာ"** တင် တော်မူခဲ့ကြပါသည်။

ဤအကြောင်းကို ကုန်းဘောင်ခေတ် **"စာဆို-ဦးယာ"** က **"အက်ချင်းကဗျာ"** ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုခဲ့ပါသည်။

မင်းချင်းလေ။ ။ တိုင်းမဂဓိုရ်၊ ရာဇဂြိုဟ်ဝယ်။ ထိုဇာတသတ်။ နွယ်မပြတ်သား။ သည်းပွတ်မြေးမြစ်။ မင်းအဖြစ်ကို။ ညှစ်ပစ်သတ်လု။ ငါးဆက်ပြုမှ။ သုသုနာဂါ။ သာသနာကို။ ဝေသာလီမည်။ ချက်မြှုပ်ပြည်သို့။ ယွန်းစည်ကျူးရင့်။ ချီလေပင့်သော်။ နှစ်မြင့်ငြိမ်ဆိမ်။ နန်းရွှေအိမ်ထက်။ စည်းစိမ်စံပြီး။ နတ်ဘုံမှီးသော်။ သားကြီးရတနာ။ ကာလာသောက။





ရိပ်ဖြူသရှင့်။ ဘုရားသာသနာ။ နှစ်တရာသည်။ ကြိုက်လာပြန်လျှင်။ ထိုဘုရင်ကို။ အရှင်ယသ။ တူကွမကွာ။ ခုနစ်ရာသား(တည့်)။ ရဟန္တာစု။ အမှီပြု၍။ ဝေဠုကာရုံ။ ကမ္ဗည်းခံသည်။ သာစံထပ်ထပ်။ နက်သန်ရပ်ဝယ်။ မဏ္ဍပ်ကြီးစွာ။ သုဓမ္မာသို့။ ရတနာကိုးသွယ်။ မွမ်းမံချယ်သား။ ပန်းနွယ်ခြူးစိပ်။ သဘင်ရိပ်ဝယ်။ စက်အိပ်နည်းဘိ။ ထေရ်မုနိသို့၊ ဒုတိယသင်္ဂါယနာ။ တင်သောခါသည်။ ။ ရှစ်မာသတိုင်တိုင်တည့်လေး။ ။ သူကောင်းဖော်ရွှေမင်းချင်းတို့။ ။



## “အဓိဋ္ဌိယဥ္စ် တတိယသင်္ဂါယနာတင်ခြင်း”

တတိယသင်္ဂါယနာတင်ခြင်းကို ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် သာသနာတော်သက္ကရာဇ်-၂၃၅-ခု၊ ခရစ်မပေါ်မီ ဘီစီ-၃၀၉-နှစ်အရောက်တွင် **“အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်”** အမှူးပြုသော ရဟန္တာမထေရ် (၁၀၀၀) တို့သည် မဇ္ဈိမဒေသ၊ ပါဋလိပုတ်ပြည်၊ သီရိဓမ္မာသောကမင်းကြီးကို အမှီပြု၍ အသောကာရာမ (အသောကာရုံ) ကျောင်းတော်ကြီး၌ (၉) လပတ်လုံး **“မုခါရုဠှ-တတိယသင်္ဂါယနာ”** တင်တော်မူခဲ့ကြပါသည်။

ဤအကြောင်းကို ကုန်းဘောင်ခေတ် **“စာဆို-ဦးယာ”** က **“အက်ချင်းကဗျာ”** ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုခဲ့ပါသည်။

မင်းချင်းလေ။ ။ ဝဇီ္ဇတိုင်းချာ။ ပြည်ဝေသာဝယ်။ ကာလာမင်းနောက်။ ဆယ့်ကိုးယောက်တွင်။ မင်းမြောက်စိမ့်ရန်။ ပုဏ္ဏားဖန်သည်။ စန္ဒဂုတ်မြေး။ ဗန္ဓု(ဗိန္ဒု)သွေးဟု။ ဘုန်းကျေးဇူးဟုန်။ မြေမိုးတုန်မျှ။ ရှေးကုန်သည်ဖြစ်။ ဘဝစစ်က။ ပျားနှစ်ရသာ။ ကုသိုလ်ပါသည်။ ဓမ္မာသောက။ နရိန္ဒလျှင်။ မဇ္ဈာဘူမိ။ ပါဋလိဝယ်။ ဆယ်ဒိသာလုံး။ အာဏာကျိုးသား။





ပေါင်းရုံးများစွာ။ ဇောပုပ္ပါတွင်(ဗျည်း,တိ,ဒွါတွင်)။ မဟာမောဂ္ဂလိပုတ္တ။ ထေရ်တိဿတို့။ ဓမ္မရှင်(မင်း)အား။ နိမန်(နိမိတ်)ကြား၍။ လက်သားအရဟန်။ တထောင်မှန်နှင့်။ ဗိမာန်ရတနာ။ ကျယ်ဝန်းစွာသည်။ သောကာရာမ။ ရွှေကျောင်းလှထက်။ တတိယသင်္ဂါယနာ။ အာဏာဖော်ပြ(ပီပြ)။ တင်ကုန်ကြသည်။ ။ သုံးလယုတ် တနှစ်တည့်လေး။ ။ သူကောင်းဖော်ရွှေမင်းချင်းတို့။ ။



## “သီဟိုဠ်၌ စတုတ္ထသင်္ဂါယနာတင်ခြင်း”

စတုတ္ထသင်္ဂါယနာတင်ခြင်းကို ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် သာသနာတော်သက္ကရာဇ်-၄၅၀-ခု၊ ခရစ်မပေါ်မီ ဘီစီ-၉၄-နှစ်အရောက်တွင် **“အဿျင်ဓမ္မရက္ခိတမထေရ်”** အမှူးပြုသော ရဟန္တာမထေရ် (၅၀၀) တို့သည် သီဟိုဠ်ကျွန်း၊ ဝဋ္ဋဂါမဏိမင်းကြီးကို အမှီပြု၍ မလယဇနပုဒ် **“အာလောကလိုဏ်ဂူ”** ၌ အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံကို **“ပေါတ္ထကာရုဠ္ဍ-စတုတ္ထသင်္ဂါယနာ”** တင်တော်မူခဲ့ကြပါသည်။

ဤအကြောင်းကို ကုန်းဘောင်ခေတ် **“စာဆို-ဦးယာ”** က **“အဏ် ချင်းကဗျာ”** ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုခဲ့ပါသည်။

မင်းချင်းလေ။ ။ ကုသဝတီ။ ပုရီပြည်ထူး။ စံလွတ်ကျူးဝယ်။ တန်ခူးလည်းကုန်။ နတ်မြူးခုန်သား(သည့်)။ ကဆုန်ပုဏ္ဏမာ။ နေ့အင်္ဂါဟု။ ဗေသာခါနက်။ တည့်မွန်းရက်တွင်။ စက်တော်မပြန်။ ခတ်နိဗ္ဗာန်ကို။ ချန်ခဲ့တုံမြောက်။ ဆန်ကြွနောက်ဝယ်။ သာလျှောက်လူဗိုလ်။ ကပ်မှီခိုသည်။ သီဟိုဠ်ရာဇာ။ ရှစ်ဆယ်လာသား။ သဒ္ဓါတိဿ။ မင်းတရားရင်သွေး။ မြတ်လေးသက်နှံ။ ချစ်အားသန်သည့်။ ဝဋ္ဋကံဘုန်းတောက်။ နန်းစံခြောက်





တွင်။ အရောက်ထိုခါ။ သာသနာမှု။ ရာလေးခုပေါ်။ ငါးဆယ်ကျော်ဟု။ တော်မဟာဝင်။ သံပိုင်းတင်ရှင့်။ ရဋ္ဌင်သတ္တ။ ပြည့်စုံလှသည့်။ အမရရန်အောင်။ ပြည်ထောင်မင်းအား။ ညွတ်တွားရိုသေ။ ဆက်လာပေသည်။ သန္ဒေသကထာ။ သီဟိုဠ်စာ၌။ လေးရာတွက်ဖွဲ့။ သုံးဆယ်နှင့်သုံး။ ပါဠိစီကုံးရှင့်။ ထုံးနှစ်ဖြာထွက်။ ထိုနှစ်ချက်ကို။ နှစ်သက်ကြရာ။ မှတ်လေပါလော့။ နှစ်မှာတွက်ဖွဲ့။ ဆဲ့ခုနစ်သာ။ မျှလောက်ကွာ၏။ မဟာသမယ။ ထိုကာလဝယ်။ ဝဋ္ဋမင်းအား။ အမှီထား၍။ ငါးခုနစ်ရာ။ ထောင်သံဃာတို့။ သုံးခါတိုင်တိုင်။ သံပြိုင်တွတ်တွတ်။ ရှေ့ကရွတ်သား။ မုခပါဠ်မြတ်စွာ။ ထေရ်ငါးရာတို့။ ပေါတ္ထကာရုဠ္ဍ။ စတုတ္ထသင်္ဂါယနာ။ တင်ပြန်လာသည်။ အာလောကလိုဏ်တွင်တည့်လေ။ ။ သူကောင်းဖော်ရွှေမင်းချင်းတို့။ ။

သံဃာတော်အဆက်ဆက်တို့သည် မြတ်ဗုဒ္ဓပရိနိဗ္ဗာန်စံပြီးနောက် နှစ်ပေါင်း-၄၅၀-အတွင်း၌သာ ဗုဒ္ဓ၏ပိဋကတ်တော်တို့ကို နှုတ်ဖြင့် အာဂုံဆောင်၍ **“မုခပါဠ်”** သင်္ဂါယနာသုံးကြိမ်တင်တော်မူခဲ့ကြ၏။ စတုတ္ထသင်္ဂါယနာတင်တော်မူသောအခါ၌ကား ပေထက်၌ အက္ခရာရေးထိုး၍ **“ပေါတ္ထကာရုဠ္ဍ”** သင်္ဂါယနာတင်တော်မူရန် ဆုံးဖြတ်ခဲ့ကြ၏။

အဘယ်ကြောင့်ဆိုသော် နောင်အနာဂတ်ကာလ၌ ပုထုဇဉ်ရဟန်းတော်များသည် သတိ၊ ပညာ၊ သဒ္ဓါ ယုတ်လျော့လာကြသဖြင့် ဗုဒ္ဓ၏ပိဋကတ်တော်များကို နှုတ်တက်အာဂုံဆောင်နိုင်ကြလိမ့်မဟုတ်။ ထိုသို့မဆောင်နိုင်ခြင်းကြောင့် ဗုဒ္ဓ၏တရားစကားတော်များ ချွတ်ချော်တိမ်းပါးသွားနိုင်ပါသည်။ ဤအရေးကို သိမြင်တော်မူသောကြောင့် ပေရွက်ပေါ်မှာ အက္ခရာရေးထိုး၍ **“စတုတ္ထသင်္ဂါယနာ”** တင်တော်မူခဲ့ကြခြင်း ဖြစ်သည်။

ဘီစီ-၉၄-ခုသည် သီဟိုဠ်ကျွန်းအနေဖြင့် မြတ်ဗုဒ္ဓ၏ပိဋကတ်

သုံးပုံတို့ကို **"ပထမဦးဆုံးအကြိမ်"** ပေရွက်ပေါ်၌ အက္ခရာ ရေးထိုးခြင်းပင် ဖြစ်သည်။

ထိုမှနောက် နှစ်ပေါင်း-၇၃၂-နှစ်အကြာ၊ အေဒီ-၆၃၅-မှ-၆၃၈ ထိတွင် ရခိုင်ပြည်၊ ဝေသာလီမြို့တော်၌ ဗုဒ္ဓ၏ပိဋကတ်တော်များကို **"ကြေးနီ၊ ကြေးဝါချပ်ရေငါးထောင်"** ၌ အက္ခရာရေးထိုး၍ မှတ်တမ်းတင်ခဲ့ ကြပြန်သည်။

ရခိုင်ပြည်တွင် ဗုဒ္ဓ၏ပိဋကတ်တော်များကို ကြေးနီ၊ ကြေးဝါချပ်ရေငါးထောင်၌ အက္ခရာရေးထိုး၍ မှတ်တမ်းတင်ခဲ့ကြခြင်းသည် ရခိုင်ပြည်အနေဖြင့်ရော, မြန်မာနိုင်ငံအနေဖြင့်ပါ **"ပထမဦးဆုံးအကြိမ်"** မှတ် တမ်းတင်ခြင်းပင် ဖြစ်ပါသည်။

ရခိုင်လူမျိုးတို့သည် အေဒီ-၆၃၅-မှ-၆၃၈-ထိ အချိန်က ကြေးပြားပေါ်တွင် အက္ခရာရေးထိုး၍ **"တာမြက္ခရာရုဋ္ဌ-ပဋ္ဌမသင်္ဂါယနာ"** တင်သောအခါကျမှသာလျှင် စာရေးစာဖတ်တတ်ကြသည်မဟုတ်။ ဤကဲ့သို့ အက္ခရာဖြင့် မှတ်တမ်းတင်ခြင်းဆိုင်ရာ သင်္ဂါယနာတင်ပွဲမျိုးကို **"ဝေသာလီခေတ်"** တွင် ကောင်းစွာဆောင်ရွက်နိုင်ခြင်းသည် "တတိယ ဓညဝတီခေတ်" ကပင် စာရေးစာဖတ်ထွန်းကားနေပြီး ဖြစ်သောကြောင့်သာ ဤ လုပ်ငန်းမျိုးကို ဆောင်ရွက်နိုင်ခြင်း ဖြစ်ပါသည်။

တတိယဓညဝတီခေတ်မှစ၍ ရခိုင်လူမျိုးတို့သည် ခေတ်အဆက်ဆက် စာရေးခြင်းအတတ်ပညာကို ဝါးခြမ်းပြား၊ ပျဉ်ချပ်၊ အုတ်ချပ်၊ ကျောက်ပြား၊ ကျောက်တိုး၊ ဘုရားစမ္ပခဏ်၊ ကြေးပြား၊ ငွေပြား၊ ငွေဒင်္ဂါး၊ ကြေးခေါင်းလောင်း၊ စတူပါစေတီ၊ ဆီမီးခွက်၊ ပေစာထုပ်ကြိုး၊ ထန်းရွက်၊ ပေရွက်၊ ပုရပိုက် စသည်တို့၌ ရေးသားခဲ့ကြလေသည်။





တတိယဓညဝတီခေတ် (ဘီစီ-၅၆၉-မှ-အေဒီ-၃၂၇-ထိ) ဟူသော အချိန်ကာလသည် အလွန်ကြာမြင့်ခဲ့ပြီဖြစ်သဖြင့် သဘာဝတရားကို မလွန်ဆန်နိုင်ရကား တာရှည်မခံသော ရုပ်ဝတ္ထုပစ္စည်းများမှာ ဆုံးရှုံးပျက်စီးခြင်းသို့ ရောက်ရှိခဲ့ကြရပါသည်။

လွယ်လွယ်ကူကူဖြင့် မပျက်စီးနိုင်သော တာရှည်ခံရုပ်ဝတ္ထုပစ္စည်းများတွင် ရေးသားခဲ့ကြသည့် စာပေများကိုတော့ ယနေ့ထက်တိုင် **"သမိုင်း သက်သေ"** အဖြစ် ပြသနိုင်ပါသေးသည်။ ဥပမာ-(၁) တောင်ပေါက်ကြီး ကျောက်စာမျိုး၊ (၂) စကြာမုနိကြေးသွန်း ရုပ်ပွားတော်မြတ်စမ္ပခဏ်ကမ္ပည်း စာမျိုး၊ (၃) ဘုရားဝမ်းပူရုပ်တုနောက်ကျောပါကမ္ပည်းစာမျိုး စသည်တို့ ဖြစ်ကြပါသည်။

ဝေသာလီခေတ် (အေဒီ-၃၂၇-မှ-၈၁၈-ထိ) ၏ ရခိုင်စာပေဆိုင်ရာ သမိုင်းသက်သေအနေဖြင့်ကား **"ရခိုင်စာပေ၏မီးရှူး တန်ဆောင်" "အာနန္ဒစန္ဒြကျောက်စာ"** အပါအဝင်ဒင်္ဂါးစာ၊ ခေါင်းလောင်းစာ၊ ကြေးနီ ပြားစာ၊ ပေစာ၊ ပုရပိုက်စာ၊ သိန်ကန်မိန်တွင်ချီရတု၊ ဗျည်း (၃၃) လုံး လေ့တော်သံ၊ စန္ဒြားဘွဲ့ကဗျာ၊ မေဓပညာမော်ကွန်း စသည်ဖြင့် စာပေ များစွာ ပေါ်ထွန်းနေပြီးဖြစ်တော့သည်။

ဝေသာလီခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက် (အေဒီ-၆၂၂-မှ-၆၅၈-ထိ)၊ အေဒီ-၆၃၅-မှစ၍-၆၃၈-ထိ သုံးနှစ်တိုင်တိုင် သင်္ဂါယနာတင်ခဲ့ကြသော သမိုင်းနောက်ခံပုံရိပ်ကို လေးမြို့ခေတ်က ရခိုင်စာဆိုရှင်တစ်ဦး ရေးဖွဲ့စပ်ဆိုခဲ့သည့် **"ရခိုင်သာစွလေကဗျာ"** တွင် ထင်ထင်ရှားရှား တွေ့မြင်နိုင်ပါသည်။ ယင်းကဗျာမှာ အောက်ပါအတိုင်း ဖြစ်သည်။

(၄) "သာစွလေ။ ။ ပြည်ရွှေအောင်မျှို့၊ ဝေသာမြို့ဝယ်၊ ပိတ်ဆို့မှိုင်းအိ၊ တန်ခိုးရှိသည်၊ ဘုမ္မိရွှေတောင်၊ ဗွေထိပ်ခေါင်ကို၊ ညီအောင်ပြုခါ၊ မြတ်နေဇာဖြင့်၊ စန္ဒာသီရိ၊ ဘွဲ့မည်ရှိသည်၊ ကြီးဘိစွမ်းအင်၊ ထိုဘုရင်လျှင်၊ ကြယ်စင်သာသနာ၊ တည်စိမ့်ငှာဟု၊ သင်္ဂါယနာ၊ ထပ်တင်ပါက၊ စူဠာရေဝ၊ နာယကတည့်၊ ဓမ္မသဘင်၊ ပွဲလယ်ခွင်၌၊ အသွင်ကေသရာ၊ ဝင့်ဝါရဲရင့်၊ ဂုဏ်သိရ်တင့်ခဲ့၊ ထပ်ဆင့်၍သာ၊ ထိုရာဇာပင်၊ ကောဇာတွင်လစ်၊ သက္ကရာဇ်ကို၊ ခေါ်ဆိုဥတ္တမ၊ ဖြိုကိန်းကျ၍၊ ခ,ဆ,ပဉ္စာ၊ ကိန်းသင်္ချာနှင့်၊ ညီစွာမသွယ်၊ ဖြိုလိုက်လေသည်။ ဘုန်းကြွယ်မဏ္ဍိုင်၊ ရခိုင်သာယောင်၊ သာယာစွလေ၊ သာစွလေ။ ။ ရက္ခိုင်သားလေ၊ သာစွလေ။ ။"

[မှတ်ချက်။ ။ စန္ဒာသီရိ - ကို **"သီရိစန္ဒြာ"** - သို့မဟုတ် - **"သီရိစန္ဒြား"** ဟူ၍ မင်း၏အမည်ကို အသင့်ယူပါ။ **"ကြယ်စင်သာသနာ"** ကိုလည်း **"စင်ကြယ်သာသနာ"** ဟူ၍ အသင့် ယူပါ။ ။]

[စာရေးသူ]

အထက်ဖော်ပြပါအတိုင်း လေးမြို့ခေတ် (အေဒီ-၈၁၈-မှ-၁၄၃၀-ထိ) အချိန်ကာလတွင်လည်း ရခိုင်စာပေကျမ်းဂန်နှင့် ပျို့၊ ကဗျာ၊ လင်္ကာ၊ ရတု အစရှိသည်တို့မှာ အများအပြားပင် ရှိနေပြီးဖြစ်ပါသည်။

မြောက်ဦးခေတ် (အေဒီ-၁၄၃၀-မှ-၁၇၈၄-ထိ) တွင်ကား ဗုဒ္ဓ၏ပိဋကတ်ဆိုင်ရာစာပေနှင့် ရခိုင်စာပေကျမ်းဂန်များမှာ မည်မျှပေါများခဲ့သည်ကို မြောက်ဦးမြို့ဝန်းကျင်ရှိ ရခိုင်ဘုရင်တို့ ကုသိုလ်ပြုထားခဲ့ကြသည့် ပိဋကတ်တိုက်ပေါင်း (၄၈) တိုက်ကိုသာ ခန့်မှန်း၍ ကြည့်ကြပေတော့ဟု ပြောလိုပါတော့သည်။

အောင်မြေသာစည်

## "ရခိုင်ပြည်၊ ဝေသာလီမြို့၌ ပဥ္စမသင်္ဂါယနာတင်ခြင်း"

သာသနာတော်သက္ကရာဇ်-၂၃၅-ခု၊ ခရစ်မပေါ်မီ ဘီစီ-၃၀၉-ခုအရောက်တွင် အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ် အမှူးပြုသော ရဟန္တာ (၁၀၀၀) တို့သည် ပါဋလိပုတ်ပြည်၊ အသောကာရုံကျောင်းတော်ကြီး၌ (၉) လပတ်လုံး **"တတိယသင်္ဂါယနာ"** တင်တော်မူခဲ့ကြကြောင်း ရှေး၌ရေးသားဖော်ပြခဲ့ပြီး ဖြစ်ပါသည်။

ယင်းတတိယသင်္ဂါယနာတင်ပွဲအပြီးတွင် အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် ရဟန္တာမထေရ်မြတ်တို့အား ကိုးတိုင်းကိုးဌာနသို့ သာသနာပြုရန် စေလွှတ်ခဲ့၏။ သာသနာတော်သက္ကရာဇ်- ၂၃၆-ခု၊ (ဘီစီ ၃၀၈) တွင် ကိုးတိုင်းကိုးဌာန၏ တစ်တိုင်းအပါအဝင်ဖြစ်သော **"မဟိံသကမဏ္ဍလတိုင်း"** ဟုအမည်ရသော ရခိုင်ပြည်သို့ **"အသျှင်မဟာရေဝ မထေရ်"** ဦးဆောင်သော ရဟန္တာမထေရ်မြတ်ငါးပါး ကြွရောက်လာခဲ့ ကြပါသည်။ သာသနာပြုရဟန္တာ မထေရ်မြတ်ငါးပါး တို့သည် ရခိုင်ပြည်၌ တရားဟောခြင်း၊ ရှင်ပြုခြင်း၊ ရဟန်းခံခြင်း စသော သာသနာပြုလုပ်ငန်းများကို ဆောင်ရွက်တော်မူခဲ့ကြပါသည်။

အောင်မြေသာစည်

ဤအကြောင်းကို ပါရာဇိက,ကဏ္ဍ၊ အဋ္ဌကထာ၊ ၁၊ ဗာဟိရနိဒါန ကထာ၊ တတိယသင်္ဂီတိကထာ၊ စာမျက်နှာ (၅၀) တွင် - **"မဟာရေဝတ္ထေရောပိ မဟိံသကမဏ္ဍလံ ဂန္တွာ ဒေဝဒူတသုတ္တံ ကထေသိ၊ သုတ္တ ပရိယောသာနေ စတ္တာလီသပါဏသဟဿာနိ ဓမ္မစက္ခုံ ပဋိလဘိံသု၊ စတ္တာလီသံယေဝ ပါဏသဟဿာနိ ပဗ္ဗဇိံသု။"** ဟူ၍ ဖွင့်ပြထားပါ သည်။

အဓိပ္ပာယ်ကား။ ။ **"အရှင်မဟာရေဝမထေရ်လည်း မဟိံသကတိုင်းသို့ ကြွရောက်၍ ဒေဝဒူတသုတ်ကို ဟောတော်မူပြီ။ သုတ်၏ အဆုံး၌ လေးသောင်းကုန်သော သတ္တဝါတို့သည် အောက်မဂ်သုံးပါးဟု ဆိုအပ်သော ဉာဏ်ကို ရကြကုန်ပြီ။ လေးသောင်းကုန်သော သတ္တဝါတို့ သည်သာလျှင် ရဟန်းပြုကြကုန်ပြီ။"** ဟူ၍ ဖြစ်ပါသည်။

ဤအကြောင်းကို ဝေသာလီကျောက်လှေကားခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်း၏ ပညာရှိအမတ်ကြီး - မေဓပညာသည် အေဒီ ၆၄၁-တွင် ရေးသားစပ်ဆိုခဲ့သည့် သူ၏ **"မေဓပညာမော်ကွန်း"** တွင်-

"ပ-ဒုနောက်မှ။ တတိယဟု။ ဓမ္မသဘင်။ သင်္ဂါယနာ။ တင်ရာမိပတိ။ မောဂ္ဂလိပုတ္တာ။ တိဿထေရ်ကျော်။ အမိန့်တော်ဖြင့်။ ထင်ပေါ်ပြည်မ။ မဟိံသဟု။ မည်ရသမိုင်း။ ရခိုင်တိုင်းသို့။ စီခိုင်းကြွလာ။ မဟာရေဝ။ ထေရငါးဖြာ။ ရဟန္တာတို့။ သူရိယာစက္က။ တို့ရာဇအား။ ဒေဝဒူတန်။ နတ်တမန်ဖြင့်။ ဟောညွှန်သွန်းလောင်း။ လေးသောင်းအရိယာ။ ဓမ္မာစက္ခု။ ရမှုလူပေါင်း။ လေးသောင်းရဟန်း။ ကျွတ်တမ်းဆိုက်ရ။ မြတ်ဗုဒ္ဓ၏။ ဓမ္မစက်နွယ်။ ဆက်သွယ်ပွားလျှောက်။ ထပ်ဆင့်လျှောက်၍။ ထွန်းတောက်





ထိန်ထိန်။ နောက်နောင်ချိန်လည်း။ မမှိန်သမိုင်း။ ရှိခိုင်တိုင်းဝယ်။" ဟူ၍ ကမ္ပည်း မော်ကွန်းရေးထိုးထားခဲ့ပါသည်။

[မှတ်ချက်။ ။ အထက်၌ဖော်ပြခဲ့ပြီးသော ပါရာဇိကဏ်အဋ္ဌကထာမှုသည် ဆဋ္ဌသင်္ဂါယနာမတင်မီအထိ တည်ရှိနေခဲ့သော **"ပဉ္စမသင်္ဂါယနာမူ"** ဖြစ်ပါသည်။ အဆိုပါ ပဉ္စမသင်္ဂါယနာမူ၌လာရှိသော သာသနာပြုရဟန္တာမထေရ်မြတ်၏ ဘွဲ့အမည်မှာ ရခိုင်ရာဇဝင်သမိုင်း၌လာရှိသော သာသနာပြုရဟန္တာမထေရ်မြတ်၏ဘွဲ့အမည်နှင့် အတူတူပင် ဖြစ်ပါသည်။ ထို့အတူ **"ကမ္ဘောဒီးယားမူ"** နှင့်လည်း အတူတူဖြစ်ကြောင်း ပါရာဇိက,ကဏ္ဍအဋ္ဌကထာ၊ ဗာဟိရနိဒါန ကထာ၊ စာ- ၄၈၊ ၅၁-တို့၏ အောက်ခြေမှတ်ချက်၌ တွေ့ရသည်။

ဆဋ္ဌသင်္ဂါယနာတင်သောအခါ၌ကား **"အသျှင် မဟာရေဝမထေရ်"** ဟူသော ဘွဲ့အမည်ကို **"အသျှင်မဟာဒေဝမထေရ်"** ဟု ပြောင်းပစ်လိုက် ကြ၏။ ပြောင်းချင်သော ဆန္ဒဖြင့် ပြောင်းပစ်လိုက်ကြသည်က အကြောင်း မဟုတ်သော်လည်း အခိုင်အမာရှိနေခဲ့ပြီးဖြစ်သော အမည်နှင့် ပြောင်းပစ်လိုက်သောအမည်မှာ အဆက်အစပ်မရှိဘဲ သမိုင်းကွင်းဆက်ပြတ်သွားနိုင်ကြောင်း သုတေသီများသတိမူကြရန် အသိပေးလိုက်ရပေသည်။ ။]

ထို့အပြင် အသျှင်မဟာရေဝမထေရ်အမျှူးပြုသော ပဉ္စဝဂ်ရဟန္တာမထေရ်မြတ်တို့သည် သူတို့ယူဆောင်လာခဲ့ကြသော မြတ်ဗုဒ္ဓ၏သရီရဓာတ်တော်၊ မွေတော်များကို ဓညဝတီပြည့်ရှင် **"သူရိယစက္ကမင်း"** ထံသို့ စနစ်တကျ ပေးအပ်တော်မူကာ မြတ်ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ်ကာလက ဓညဝတီရခိုင်ပြည်သို့ ကြွရောက်တော်မူပြီး ဗျာဒိတ်တော်ထားရှိခဲ့သည့်

အတိုင်း ရခိုင်ပြည်မြို့ရွာဒေသအသီးသီးတို့၌ **“စေတီပုထိုး”** များကို တည် ထားကိုးကွယ်စေတော်မူခဲ့ကြပါသည်။

တတိယဓညဝတီခေတ် (ဘီစီ-၅၆၉-မှ-အေဒီ-၃၂၇-ထိ) ၏ အေးချမ်းသာယာပုံ၊ သာသနာထွန်းလင်းတောက်ပပုံ အစရှိသည်တို့ကို လေးမြို့ခေတ်က ရခိုင်စာဆိုရှင်တစ်ဦးရေးဖွဲ့ခဲ့သည့် **“ရခိုင်သာစွလေကဗျာ”** တွင် -

(၁) “သာစွလေ။ ။ ပြည်ရွှေမဏ္ဍလာ၊ ရက္ခာပူရ၊ တိုင်းဓညဟုနာမသညီ၊ သောင်းရပ်မြီထက်၊ ရွှေ့ဆီပြုဗ္ဗာ၊ အာကာမှီခိုင်း၊ တောင်ပြိုင်းပြိုင်းနှင့်၊ ပြည့်လှိုင်းကြက်သရေ၊ ဖြိုးဖြိုးဝေသား၊ အောင်မြေသာစံ၊ ရို့နိုင်ငံလျှင်၊ အင်ကြင်ဖုံဖုံ၊ ပြီးပြည့်စုံ၍၊ ပေါင်းဆုံဝတီ၊ လေးရပ်ညီနှင့်၊ နဒီလေးစင်း၊ စုန်စီးဆင်းလျက်၊ ခပင်းရန်သူ၊ မပြုကင်းဝေး၊ ရေယောင်အေး၍၊ ဝေးနီးပြည်ရွာ၊ ရပ်ဒေသာက၊ ပဏ္ဏာများမြောင်၊ ဆက်ပို့ဆောင်သား၊ မြရောင်စိုရွှန်း၊ ဇမ္ဗူကျွန်းဝယ်၊ တည်ထွန်းသာသနာ၊ သချာများမြောင်၊ နှစ်ငါးထောင်တည်၊ စေ့အောင်တည်ရာ၊ ဗျာဒိတ်မှာသည်၊ ရက္ခာမဏ္ဍိုင်၊ ရခိုင်သာယောင်၊ သာယာစွလေ၊ သာစွလေ။ ။ ရက္ခိုင်သားလေ၊ သာစွလေ။ ။”

(၂) “သာစွလေ။ ။ ပြည်ရွှေရက္ခာ၊ မြကျွန်းသာထက်၊ ဓညာမြို့ကြီး၊ စည်နှင့်ထီးကို၊ ပြီးစီးခန့်ရှည်၊ ဦးစွာတည်သည့်၊ ခေါ်တွင်မည်ပြုမာရယုနှင့်၊ မင်းစုစဉ်ဆက်၊ နွယ်မပျက်ဘဲ၊ ဖွင့်လျက်ထီးဖြူ၊ ကြင့်ါနိန်းထူသား၊ များလူတကာ၊ ဦးညွှတ်ရာသည်၊ စန္ဒာသူရိယ၊ မင်းလှရာဇာ၊ စိုးသောခါဝယ်၊ မြတ်စွာဗုဒ္ဓ၊ ပြည်ဓညသို့၊ ချီကြွပြီးမှ၊ ဝေနေယျအား၊ မေတ္တာပွား၍၊ တရားရေအေး၊ အမြိုက်ဆေးကို၊ တိုက်ကျွေးမှလျှင်၊ ပြန်လေကျင်၍၊ ရင်





ခွင်အားလုံး၊ မေတ္တာဖုံးသည်၊ ကျွန်းလုံးမဏ္ဍိုင်၊ ရခိုင်သာယောင်၊ သာယာစွလေ၊ သာစွလေ။ ။ ရက္ခိုင်သားလေ၊ သာစွလေ။ ။” ဟူ၍ တွေ့ရှိရပါသည်။

သာသနာပြု ရဟန္တာအသျှင်မြတ်များနှင့်အတူ ရခိုင်ပြည်သို့ ထေရဝါဒဗုဒ္ဓသာသနာ၏ အခြေခံကျသော ပရိယတ္တိသာသနာ ရောက်ရှိလာချိန်သည် တတိယဓညဝတီခေတ်၊ **“စန္ဒာသူရိယမင်းကြီး”** မှ (၆) ဆက်မြောက် **“သူရိယစက္ကမင်း”** (ဘီစီ-၃၁၆-မှ-၂၇၂-ထိ) လက်ထက်တော်အခါကာလကပင် ဖြစ်ပါသည်။

ထိုအချိန်အခါမှစ၍ ရခိုင်ပြည်၌ ပရိယတ္တိသာသနာ၊ ပဋိပတ္တိသာသနာ၊ ပဋိဝေဓသာသနာ ဟုဆိုအပ်သော သာသနာတော်သုံးရပ်စလုံးသည်လည်း စတင်ထွန်းကားလာခဲ့ပါတော့သည်။ ရခိုင်ဘုရင် **“သူရိယစက္ကမင်းကြီး”** လက်ထက်သည် ရခိုင်ပြည်သို့ မြတ်ဗုဒ္ဓ၏သာသနာတော်သုံးရပ်စလုံး စတင်ရောက်ရှိလာသော အချိန်ကာလဖြစ်၍ ဗုဒ္ဓဘာသာဝင်ရခိုင်လူမျိုးတိုင်း အထူးတန်ဖိုးထားကြရမည့် အချိန်ကာလဖြစ်ကြောင်း အသိပေးအပ်ပါသည်။

သာသနာတော် သက္ကရာဇ်-၂၃၆-ခု (ဘီစီ-၃၀၈) အချိန်အခါကာလသည် သီဟိုဠ်နှင့် ရခိုင်တို့သို့ ဗုဒ္ဓသာသနာပြု ရဟန္တာအရှင်မြတ်များ စတင်ရောက်ရှိလာခဲ့ပြီး၊ မြတ်ဗုဒ္ဓသာသနာတော် စည်ပင်ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့ကြသည့် အချိန်အခါပင် ဖြစ်ပါသည်။

ရခိုင်ကို ရှေးခေတ်ကျောက်စာ၊ ပေစာ၊ ပိဋကတ်စာပေများ၌ ဓညဝတီ = မပဟိံသကမဏ္ဍလ = အာရက္ခဒေသ = ရက္ခပူရ = ရက္ခင် (=ရခိုင်) ဟူ၍ တွေ့ရသလို၊ သီဟိုဠ်ကိုလည်း သိလာမေဃ = လင်္ကာဒီပ

= သီဟဠဒီပ = တမ္ဗပဏ္ဏိဒီပ (=သီဟိုဠ်ကျွန်း) ဟူ၍ တွေ့ရှိရပါသည်။ ယင်းတို့မှာ ရခိုင်နှင့် သီဟိုဠ်တို့၏ ပါဠိဘာသာ၊ သက္ကတဘာသာ အခေါ်အဝေါ်တို့၏ ပရိယာယ်ပုဒ်များ ဖြစ်ကြပါသည်။ သီဟိုဠ်ကို ရှေးခေတ်စာပေတို့၌ "သိန်းဃိုဠ်" ဟူ၍လည်း ခေါ်ဝေါ်ရေးသားခဲ့ကြောင်း တွေ့ရှိရပါသည်။ ယခုအခါမှာတော့ သီဟိုဠ်ကို **"သီရိလင်္ကာနိုင်ငံ"** ဟူ၍ ခေါ် တွင်လျက်ရှိနေပေတော့သည်။

ဝေသာလီကျောက်လှေကားခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက် (အေဒီ-၆၂၂-မှ-၆၅၈-ထိ)၊ အေဒီ-၆၃၈ (သာသနာတော်သက္ကရာဇ်-၁၁၈၂-ခုနှစ်) တွင် ရခိုင်ပြည်မှ **"အသျှင်စူဠရေဝ ရဟန္တာ မထေရ်"** အမှူးပြု၍ သီဟိုဠ်သံဃာ (၅၀၀)၊ ရခိုင်သံဃာ (၁၅၀၀)၊ ပေါင်း (၂၀၀၀) သော သံဃာတော်အသျှင်မြတ်တို့သည် ဝေသာလီကျောက် လှေကားမြို့၊ ရွှေတောင်ပေါ်ထက်၌ ပိဋကတ်သုံးပုံ နှင့်တကွ အဋ္ဌကထာ ကျမ်းဂန်များကို ကြေးပြားချပ်ရေ (၅၀၀၀) ၌ (၃) နှစ်ကြာမျှ အက္ခရာ ရေးထိုး၍ **"ပဉ္စမသင်္ဂါယနာ"** တင်တော်မူ ခဲ့ကြပါသည်။ အဆိုပါသင်္ဂါ ယနာကို "တာမြက္ခရာရုဋ္ဌ-ပဉ္စမသင်္ဂါယနာ" ဟုခေါ်ပါသည်။

ဤအကြောင်းကို အေဒီ-၆၄၁-တွင် ရေးသားစပ်ဆိုခဲ့သည့် ရခိုင်ပညာရှိအမတ်ကြီး-မေဓပညာ၏ **"မေဓပညာမော်ကွန်း"** တွင်-

မြသွင်မှိုင်းအိ။ တန်ခိုးဟိသည်။ ဘုမိရှိတောင်။ ဗွီထိပ်ခေါင်ကို။ ညီအောင်ပြုလျက်။ လေးဘက်ညီညာ။ တစ်မျက်နှာလျှင်။ ဝိဟာယှဉ်မှီ။ ငါးဆောင်စီတည်း။ မျှညီစမွာယ်။ ငါးဆယ်သံဃာ။ တစ်မျက်နှာလျှင်။ နှစ်ရာငါးဆယ်။ လေးသွယ်အရိယာ။ ထေရ်သံဃာတို့။ နှစ်ဖြာစူရ။ သီဟ





ဠမှ။ သတင်ါးလီ။ ကြွချီဖြည့်တင်း။ တိုင်းရင်းဓည။ တို့ပြည်မမှ။ စူရငါးရာ။ ကျော်လာတစ်ထောင်။ ပင့်ဆောင်ကျွေးမွီး။ လှူပီးပွဲကြီး။ ပွဲတင်ဟည်းမျှ။ အံ့ချီးထိုခါ။ ကျင်းပရာတွင်။ လယ်ချာထူးဆန်း။ နတ်နန်းတူလျှောင်း။ ရှိကျောင်းဗိမာန်။ ဝေဇယန်မှ။ ဓမ္မရတနာ။ ညီလာခံမှူ။ ပြုကြစေရာ။ သံဃာနှစ်ထောင်။ ဦးဆောင်ပုဗ္ဗင်။ သခင်စူဠ။ ရေဝထေရ်လျှင်။ ကြီးမှူးတင်၍။ သဘင်ဓမ္မ။ သင်္ဂါယနာ။ တင်ပြုရာတွင်။ " ဟူ၍ ရေးဖွဲ့စပ်ဆိုထားခဲ့သည်ကို တွေ့ရသည်။

အထက်ပါ မော်ကွန်းမှတ်တမ်းအရ ဝေသာလီမြို့တော်အနီးရှိ ယခင်အခေါ် **"ရွှေတောင်"**၊ ယခုအခေါ် **"သရက်ချိုတောင်"** ၏ တောင် ထိပ်ပြင်၌ မြေကိုညီအောင် ပြုပြင်ထားကြောင်း၊ တောင်၏ လေးဘက် လေးနံကိုလည်း ညီညာလှပအောင် ပြုလုပ်ထားကြောင်း၊ တစ်မျက်နှာလျှင် သံဃာအပါး (၅၀) ဆန့်၊ ကျောင်း (၅) ဆောင်စီ လေးမျက်နှာ၌ အညီအမျှ ဆောက်လုပ် ထားကြောင်း၊ (၅×၄ =၂၀×၅၀ = ၁၀၀၀)၊ ပြီး လျှင် အရိယာ သံဃာ တော်များအတွက် သီးသန့်အနေဖြင့် တစ်မျက်နှာ လျှင် (၂၅၀) ဆန့်၊ ကျောင်းဆောင် (၄) ဆောင် ဆောက်လုပ်ထားကြောင်း၊ (၂၅၀×၄ = ၁၀၀၀)၊ သီဟိုဠ်နိုင်ငံမှ စူရနှစ်ဖြာဝန်ဆောင် သံဃာအပါး (၅၀၀) ကို ပင့်ဆောင်ထားသဖြင့် ကြွချီရောက်ရှိနေကြောင်း၊ တိုင်းရင်း ဒေသဖြစ်သည့် ဓညဝတီရခိုင်ပြည်မမှ စူရနှစ်ဖြာဝန်ဆောင် သံဃာအပါး (၁၅၀၀) ကို ပင့်ဆောင် တော်မူထားကြောင်း၊ စုစုပေါင်း သင်္ဂါ ယနာတင်ဝန်ဆောင်သံဃာတော်အပါး (၂၀၀၀) တို့အား ကျွေးမွေးလှူ ဒါန်းအပ်သော အလှူကြီးမှာ ပွဲတင်ဟည်းမျှ အံ့ချီးဖွယ်ရာ ကျင်းပခြင်း ဖြစ်ကြောင်း၊ ပွဲတော်ကျင်းပရာ ဗိမာန်တော်

ကြီးမှာ တာဝတိံ သာနတ်ပြည်က ဝေဇယန္တာဗိမာန်တော်ကြီးကဲ့သို့ နတ်ဘုံနတ်နန်းတမျှ တူညီပါ ကြောင်း၊ မြတ်ဗုဒ္ဓ၏ **"ဓမ္မရတနာ"** ကို သင်္ဂါယနာတင်ရန် **"ညီလာခံပွဲ သဘင်"** သို့ ကြွရောက်တော်မူလာကြသည့် (၂၀၀၀) သော သံဃာတော် အသျှင်မြတ်များက ရခိုင်က **"အသျှင်စူဠရေဝ ရဟန္တာမထေရ်မြတ် ကြီး"** ကို အကြီးအမှူးတင်မြှောက်ခဲ့ကြကြောင်း စသည်ဖြင့် သင်္ဂါယနာ တင်ပွဲ မစမီ ကြိုတင်ပြီး စနစ်တကျစီမံထားပုံများကို သိရှိကြရပါသည်။

[မှတ်ချက်။ ။ ရခိုင်ပြည်၏ ဗုဒ္ဓသာသနာ့သမိုင်းတွင် အသျှင်မဟာရေဝမထေရ်နှင့် အသျှင်စူဠရေဝမထေရ်ဟူ၍ ဘွဲ့အမည်တူ ရဟန္တာအသျှင်မြတ်နှစ်ပါးရှိခဲ့ကြပါသည်။ သာသနာတော်သက္ကရာဇ် ၂၃၆-ခု (ဘီစီ-၃၀၈) က အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်မြတ်၏ စေလွှတ်ချက်အရ ရခိုင်ပြည်သို့ သာသနာပြုရန် ကြွရောက်လာသော ရဟန္တာမထေရ်မြတ်ငါးပါးအနက် ဦးဆောင်ရဟန္တာမထေရ်မြတ်၏ဘွဲ့အမည်မှာ အသျှင်မဟာရေဝမထေရ်ဖြစ်ပြီး၊ သာသနာတော်သက္ကရာဇ် ၁၁၈၂-ခု (အေဒီ-၆၃၈) တွင် ရခိုင်ပြည်၊ ဝေသာလီမြို့၌ ပဌမသင်္ဂါယနာတင် ဦးဆောင်ရဟန္တာမထေရ်မြတ်၏ ဘွဲ့အမည်မှာ အသျှင်စူဠရေဝမထေရ်ဖြစ်ပါသည်။]

ဆက်လက်၍ အမတ်ကြီးမေဓပညာက သူ၏မေဓပညာမော်ကွန်းတွင်-

"စစ္စာပဌ။ ဝိနယဥ္။ နှစ်ရာ့ငါးဆယ်။ နိကယ်ပဌ။ သုတ္တန္တဟု။ ကေတာလီ။ ကျမ်းဂမ္ဘီဥ္။ ယှဉ်မှီကိုးရာ။ တစ်ဆယ်လာ၏။ ခုဒ္ဒကာမည်ရ။ သတ္တဝေဖြာ။ ဘိဓမ္မာဥ္။ ရှစ်ရာလေးဆယ်။ သုံးသွယ်ပိဋကတ်။ ပါဠိမြတ်ဥ္။





ရှိုးမှတ်ကြီးပြား။ နှစ်ထောင်အားဖြင့်။ ပြီးငြားသီချာ။ တနှစ်ကြာခဲ့။ တဖြာဖွင့်ပြ။ အဋ္ဌကထာ။ ဝိနယာဥ္။ ခုနစ်ရာငါးဆယ်။ နိကာယ်ပဌ။ သုတ္တန္တမှာ။ ထောင့်ငါးရာတည်း။ ဓမ္မာတိရေကာ။ ဘိဓမ္မာဥ္။ ခြောက်ရာကိုးဆယ်။ ဓိပ္ပာယ်ပေါင်းရုံး။ ကျဉ်းချုံးဖွင့်ဟိ။ ဝိသုဒ္ဓိမဂ်။ ရေတွက်တာလီသ။ ဒွိယနိဿယာ။ ကင်္ခါဝိတရဏီ။ ကြီးနီချပ်ပြား။ ငါးဆယ်အားဖြင့်။ ငါးပါးနိကာယ။ အဋ္ဌကထာ။ နှစ်နှစ်ကြာခဲ့။ စဉ်လာပွားသက်။ ဓမ္မစက်လျှင်။ ရှည်ဆက်တည်မှု။ မျှော်ထောက်ရှု၍။ ပ-ဒုနောက်မှ။ တတိယဟု။ ဓမ္မသဘင်။ သင်္ဂါယနာ။ တင်ရာဓိပတိ။ မောဂ္ဂလိပုတ္တ။ တိဿထေရ်ကျော်။ အမိန့်တော်ဖြင့်။ ထင်ပေါ်ပြည်မ။ မဟိံသဟု။ မည်ရသမိုင်း။ ရခိုင်တိုင်းသို့။ စီခိုင်းကြွလာ။ မဟာရေဝ။ ထေရငါးဖြာ။ ရဟန္တာတို့။ သူရိယာစက္က။ တို့ရာဇအား။ ဒေဝဒူတန်။ နတ်တမန်ဖြင့်။ ဟောညွှန်သွန်းလောင်း။ လေးသောင်းအရိယာ။ ဓမ္မာစက္ခု။ ရမှုလူပေါင်း။ လေးသောင်းရဟန်း။ ကျွတ်တန်းဆိုက်ရ။" ဟူ၍ ရေးသားစပ်ဆိုထားပါသည်။

အဆိုပါ မော်ကွန်းမှတ်တမ်းအရ သင်္ဂါယနာတင်ရာ၌ ပါဠိတော်နှင့် အဋ္ဌကထာကျမ်းများအလိုက် ရေးထိုးထားသော ကြေးပြား (ကြေးနီ၊ ကြေးဝါစသော) ချပ်ရေကို အရေအတွက်နှင့်အမျှ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သင်္ဂါယနာတင်ရာတွင် ပါဝင်သော ကျမ်းအရေအတွက်နှင့် ကြေးပြားချပ်အရေအတွက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

ပါဠိတော်ကိုတင်ရာ၌ -

(၁) ဝိနည်းငါးကျမ်းကို ကြေးနီချပ်ရေ = ၂၅၀

(၂) နိကာယ်ငါးရပ်တွင် သုတ္တန် (၄၁) ကျမ်းကို ကြေးနီချပ်ရေ = ၉၁၀

(၃) ခုဒ္ဒကနိကာယ်ဝင် အဘိဓမ္မာ၌ ကြေးနီချပ်ရေ = ၈၄၀

စုစုပေါင်း အချပ်ရေ = ၂၀၀၀

အဋ္ဌကထာကို တင်ရာ၌

(၁) ဝိနည်းငါးကျမ်းကို ကြေးနီချပ်ရေ = ၇၅၀

(၂) နိကာယ်ငါးရပ်တွင် သုတ္တန် (၄၁) ကျမ်းကို ကြေးနီချပ်ရေ = ၁၅၀၀

(၃) အဘိဓမ္မာခုနစ်ကျမ်းကို ကြေးနီချပ်ရေ = ၆၉၀

(၄) ဝိသုဒ္ဓိမဂ်ကို ကြေးနီချပ်ရေ = ၄၀

(၅) ကင်္ခါဝိတရဏီ (ဘိက္ခု၊ ဘိက္ခုနီ၊ ဝိနိစ္ဆယ) ကို ကြေးနီချပ်ရေ = ၂၀

စုစုပေါင်း အချပ်ရေ = ၃၀၀၀ ဖြစ်ပါသည်။ ပါဠိတော်နှင့် အဋ္ဌကထာနှစ်ရပ်ပေါင်းသော် ကြေးပြားချပ်ရေ (၅၀၀၀) တိတိ ရှိပါသည်။

အထက်ဖော်ပြပါ မော်ကွန်းမှတ်တမ်းအရ သင်္ဂါယနာတင်ရာ ကာလမှာ သုံးနှစ်တိတိကြာမြင့်ခဲ့ကြောင်း၊ ဤကဲ့သို့ သင်္ဂါယနာတင်နိုင်မှုမှာလည်း တတိယသင်္ဂါယနာတင်ပွဲ၏ အဓိပတိဖြစ်သော အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သူမြတ်ကြီး၏ သာသနာပြုစေလွှတ်ခဲ့ခြင်း၏ အကျိုးဆက်ဖြစ်ကြောင်း၊ ထိုခေတ်ထိုအခါက ရခိုင်ပြည်ကို "မဟိံ သကမဏ္ဍလတိုင်း" ဟုအမည်ရကြောင်း၊ သာသနာပြုကြွရောက်လာသော ရဟန္တာမထေရ်အသျှင်သူမြတ်များမှာ အသျှင်မဟာရေဝမထေရ်ဦးဆောင်သော ပဉ္စဝဂ်သံဃာဖြစ်ကြောင်း၊ ခေတ်ကာလအချိန်မှာ တတိယဓညဝတီခေတ်၊ စန္ဒာသူရိယမင်းကြီးမှ (၆) ဆက်မြောက် **"သူရိယစက္ကမင်း"** လက်ထက်ဖြစ်ကြောင်း၊ ဟောကြားသော တရားဒေသနာတော်မှာ "ဒေဝဒူတသုတ္တန်" ဖြစ်ကြောင်း၊ တရားတော်၏အဆုံး၌ လေးသောင်းမျှလောက်ကုန်သော လူများက ဓမ္မစက္ခု = တရားမျက်စိကို ရကြသဖြင့် အရိယာအဖြစ်သို့ ရောက်ခဲ့ကြကြောင်း၊ လေးသောင်းမျှလောက်ကုန်သော လူများ





က ရဟန်းဘဝကို ရယူသွားခဲ့ကြကြောင်း စသည်ဖြင့် စနစ်တကျရေးဖွဲ့၍ မှတ်တမ်းတင်ထားခဲ့သည်ကို တွေ့ရှိရပါသည်။

ထိုခေတ်ထိုအချိန်က ရခိုင်လူမျိုးတို့သည် သင်္ဂါယနာတင်ရန်အတွက် ကြေးနီ၊ ကြေးဝါချပ်များကို ရွေးချယ်ခဲ့ကြခြင်းမှာ ဗုဒ္ဓ၏ပိဋကတ်တော်များ ရေရှည်တည်တံ့မှုကို ရှေ့ရှုပြီး ရွေးချယ်ခဲ့ကြခြင်း ဖြစ်ပါသည်။ ယင်းခေတ်ယင်းကာလက ရခိုင်ပြည်၏စီးပွားရေးအခြေအနေနှင့် အဘက်ဘက်က ဖွံ့ဖြိုးတိုးတက်နေမှုကို ခန့်မှန်းနိုင်သလို၊ ရခိုင်ပြည်၌ စာပေယဉ်ကျေးမှု မည်မျှမြင့်မားနေပြီးဖြစ်ကြောင်းကိုလည်း သိရှိနိုင်ပါသည်။

ဆက်လက်၍ အမတ်ကြီးမေဓပညာက သူ၏ **"မေဓပညာမော်ကွန်း"** တွင်-

"ပြန့်လှိုင်းရောင်စွယ်။ ဇမ္ဗူလယ်၌။ ဖြန့်ကျယ်ဆင့်ဆင့်။ နှံ့သွယ်လင့်ဟု။ အသင့်လျော်စွာ။ ဆောက်တည်ကာဖြင့်။ မဟာမဟိန္ဒ။ ထေရဘုန်းစည်။ ဖြန့်တည်နွယ်စင်။ သီဟိုဠ်ခွင်၌။ နောင်တွင်ဆောင်ရွက်။ လွန်ခဲခက်၍။ ပေထက်အက္ခရာ။ သင်္ဂါယနာ့။ စတုတ္ထမြောက်။ တင်ပြီးနောက်မှ။ တိမ်းမှောက်ညစ်ညူး။ ဝါဒထူးဖြင့်။ ကူးလူးမယှဉ်။ အစဉ်တည်တံ့။ အရှည်ခံ့ဟု။ ကူပံ့ဖြန့်ဖြူး။ မြတ်ကျေးဇူးဟိ။ ရဘိရည်ညွတ်။ လွတ်လွတ်ပြုထ။ သီဟဠနှင့်။ ဝါဒတူဆီ။ တို့သိင်္ဂီအား။ ပဉ္စမီထပ်။ ကြီးနီချပ်လျှင်။ ရှီကွပ်တင့်သား။ ငါးထောင်အားဖြင့်။ ရှီးထားသီချာ။ သုံးနှစ်ကြာလျှင်။ ကောင်းစွာသီးသီး။ အောင်မြင်ပြီး၍။ လူထီးခွန်ဆီ။ စိုးမိုးချီသ။ သီရိစန္ဒြာ။ တို့ရာဇာကား။ ပြည်ရွာခွန်ဆက်။ လျှော့တန်တဝက်။ ရန်မျက်ခပ်သိမ်း။ ငြိမ်းစီကြောင်းပြု။ ကောင်းမှုပြည့်ဖြိုး။ စေတီမျိုးနှင့်။ ပုထိုးဆင်းတု။ မျက်ရှုကြည်လင်။ ဖြူစင်မနော။ ပြန့်ပြောစဖွယ်။ ဂူကျောင်းဆွယ်လျက်။

သွားလွယ်တံတား။ ရီထားကန်တူး။ မြောင်းဆည်ထူးဖြင့်။ ဆည်းပူးမယုတ်။ ကြိုးကုတ်ဒါန။ သီလတဖြာ။ ဘာဝနာတရပ်။ ဝိပဿနာ။ ပွားကာထိန်းချုပ်။ လေးကုတ်မဂ္ဂင်။ ထုံ့မွန်းတင်သည်။ ။ ဖိုလ်ဝင်နိဗ္ဗူရောက်ကြောင်းတည်း။ ။" ဟူ၍ ရေးသားစပ်ဆိုထားခဲ့ပါသည်။

အထက်ဖော်ပြပါ မော်ကွန်းမှတ်တမ်းအရ မြတ်ဗုဒ္ဓ၏ထေရဝါဒ ဗုဒ္ဓသာသနာသည် ခေတ်အဆက်ဆက် ထွန်းလင်းတောက်ပနေဖို့နှင့်၊ အရောင်အဝါ မမှေးမှိန်သင့်ကြောင်း၊ သို့ဖြစ်၍ သီဟိုဠ်ကျွန်း၌ အရှင်မဟိန္ဒဦးဆောင်၍ စတုတ္ထသင်္ဂါယနာတင်ခဲ့ကြကြောင်း၊ ရခိုင်ပြည်၌တင်ခဲ့သော ပဥ္စမသင်္ဂါယနာမူမှာ သီဟိုဠ်ကျွန်း၌ တင်ခဲ့ပြီးဖြစ်သော စတုတ္ထသင်္ဂါယနာမူနှင့် ဝါဒတူညီမှုရှိကြောင်း၊ သင်္ဂါယနာတင်သော အကြိမ်မှာ ပဥ္စအကြိမ်ဖြစ်ကြောင်း၊ သင်္ဂါယနာတင်သော ပစ္စည်းမှာ ကြေးနီ၊ ကြေးဝါ အချပ်ပေါင်း ငါးထောင်ရှိကြောင်း၊ သင်္ဂါယနာတင်ရာကာလမှာ သုံးနှစ်ကြာမြင့်ခဲ့ကြောင်း၊ ပစ္စည်းလေးပါး အမှီပြုရသော မင်းမှာ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းဖြစ်ကြောင်း၊ အခွန်ဆက်သမှုကို တစ်ဝက်လျှော့ချလိုက်ကြောင်း၊ ဘေးရန်ခပ်သိမ်း ကင်းငြိမ်းစေရန် ကောင်းမှုအနေဖြင့် စေတီအမျိုးမျိုးနှင့် ပုထိုးတော်,ဆင်းတုတော်များကို တည်ထားခဲ့ကြောင်း၊ ဖြူစင်သော စိတ်စေတနာဖြင့် ဂူ၊ ကျောင်း၊ တံတား၊ ရေတွင်း၊ ရေကန်တူးဖော်ခြင်းနှင့် ဆည်မြောင်းများ ပြုလုပ်ခဲ့ကြောင်း၊ ဤကဲ့သို့ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်တရားတို့ကို ပွားများခြင်းသည် မဂ်,ဖိုလ်နိဗ္ဗာန်ကို ရောက်လိုကြောင်း စသည်ဖြင့် စနစ်တကျစုံလင်အောင် ရေးဖွဲ့ထားပုံမှာ အလွန်ပင် အံ့သြချီးမွမ်းလောက်ပါပေ၏။

အဆိုပါ မော်ကွန်းမှတ်တမ်းအရ ယင်းအချိန်က ရခိုင်ပြည်၏





သာသနာစည်ပင်ထွန်းကားနေမှုကို ခန့်မှန်းနိုင်သလို၊ စာပေရေးသားမှု အတတ်ပညာကိုလည်း ခန့်မှန်းနိုင်ပါသည်။ ရခိုင်နှင့် သီဟိုဠ်နှစ်နိုင်ငံ ဗုဒ္ဓဘာသာ သာသနာဆက်သွယ်မှု မည်မျှရှိနေပြီဖြစ်ကြောင်းကို သိရှိနိုင်သလို၊ ဗုဒ္ဓနှင့်ပတ်သက်သော ပါဠိဘာသာ (စာပေ) လည်း များစွာထွန်းကားနေပြီဖြစ်ကြောင်းကိုလည်း သိရှိနိုင်ပါသည်။

ရခိုင်ယဉ်ကျေးမှုသည် ဗုဒ္ဓဘာသာ,သာသနာကို အခြေခံထားသော ယဉ်ကျေးမှုဖြစ်ခြင်းကြောင့် ရခိုင်လူမျိုးနှင့် ဗုဒ္ဓဘာသာ,သာသနာမှာ ခွဲခြား၍မရအောင် ဒွန်တွဲလျက်ရှိနေပါသည်။

သီဟိုဠ်ကျွန်း၌ စတုတ္ထသင်္ဂါယနာတင်ချိန်သည် ဘီစီ-၉၄-ဟုဆို၏။ ရခိုင်ပြည်၌ ပဥ္စသင်္ဂါယနာတင်ချိန်သည် ရာဇဝင်သမိုင်း၊ မော်ကွန်းမှတ်တမ်းများအရ အေဒီ-၆၃၅-မှ အေဒီ-၆၃၈-ထိ သုံးနှစ်တာကာလဖြစ်ပါသည်။ ထို့ကြောင့် ရခိုင်နှင့်သီဟိုဠ် သင်္ဂါယနာတင်ခဲ့ကြသည့် ကာလအပိုင်းအခြားမှာ နှစ်ပေါင်း (၇၃၂) နှစ်ခန့် ကွာခြားလျက်ရှိကြောင်း သိရှိရပါသည်။ ယင်းကွာခြားချက်ကို စတုတ္ထသင်္ဂါယနာတင် ရဟန္တာအသျှင်မြတ်များ၏ သဘောဆန္ဒနှင့် ကိုက်ညီမှုရှိ-မရှိ ဝေဖန်ဆန်းစစ်ကြည့်နိုင်ပါသည်။

သီဟိုဠ်ကျွန်း၌ ရဟန္တာအသျှင်မြတ်တို့သည် စတုတ္ထသင်္ဂါယနာကို **"ပေရွက်"** ပေါ်၌ အက္ခရာရေးထိုး၍ တင်ခဲ့ကြခြင်း ဖြစ်ပါသည်။ ရဟန္တာအရှင်မြတ်တို့သည် ပေရွက်ကို သင်္ဂါယနာတင်ပစ္စည်းအနေဖြင့် ရွေးချယ်ခဲ့ကြခြင်းမှာ ပေရွက်၏သက်တမ်းသည် မဆွေးမမြေ့ဘဲ အနှစ်တစ်ထောင်ခန့် ကြာမြင့်သောကြောင့် ဖြစ်၏။ စတုတ္ထသင်္ဂါယနာတင် ရဟန္တာအသျှင်မြတ်တို့သည် **"နှောင်နှစ်ပေါင်းတစ်ထောင်ကာလ**

**အတွင်း ၌ ဗုဒ္ဓဘာသာကို ကြည်ညိုလေးစားသူ မင်းနှင့်အတူ ရဟန်းရှင်လူတို့က ထပ်မံ၍ သင်္ဂါယနာတင်ကြပေလိမ့်မည်"** ဟူသော ရည်ရွယ်ချက် (သို့ မဟုတ်) သဘောဆန္ဒရှိခဲ့ကြ၏။ ထို့ကြောင့် သက်တမ်းကြာရှည်ခံသော ပေရွက်ကို ရွေးချယ်ခဲ့ကြခြင်း ဖြစ်ပါသည်။

ရခိုင်နှင့် သီဟိုဠ်တို့သည် ထေရဝါဒဗုဒ္ဓဘာသာထွန်းကားရာ တိုင်းပြည်များဖြစ်သည့်အလျောက်၊ ဗုဒ္ဓဘာသာဆိုင်ရာ ရှေးဟောင်းယဉ်ကျေးမှုသမိုင်းအမွေအနှစ်များ တည်ရှိထွန်းကားရာ တိုင်းပြည်များလည်း ဖြစ်ခဲ့ကြပါသည်။

ရက္ခပူရ = ရခိုင်နှင့် သီလာမေဃ = သီဟိုဠ်တို့သည် ဘာသာရေးအရ ယဉ်ကျေးမှုခြင်း အဆက်အသွယ်ရှိခဲ့ကြပုံကို ကျောက်စာ၊ ပေစာ၊ ရာဇဝင်သမိုင်းတို့၌ အခိုင်အမာတွေ့ရ၏။ ယင်းတို့အနက် အေဒီ-၂-ရာစုအတွင်းက ရေးထိုးခဲ့သော **"နာဂါဂျူနိကွန်ဒါကျောက်စာ"** ကို တင်ပြလိုပါသည်။

အဆိုပါကျောက်စာအရ သီလာမေဃ (သို့မဟုတ်) သီဟိုဠ်ကျွန်းမှ သံဃာတော်အသျှင်မြတ်များသည် ရခိုင်ပြည်သို့ ကြွရောက်တော်မူလာခဲ့ကြပုံကို ရေးထိုးထားကြောင်း သိရှိရပါသည်။ ယင်းသီဟိုဠ်ကျွန်းမှ သံဃာတော်အသျှင်မြတ်များ ရခိုင်ပြည်သို့ ကြွရောက်လာခဲ့ကြသည့်အချိန်မှာ သီဟိုဠ်ကျွန်း၌ စတုတ္ထသင်္ဂါယနာတင်ပြီး နောက်ပိုင်းကာလဖြစ်၏။ သီဟိုဠ်ကျွန်း၌ စတုတ္ထသင်္ဂါယနာကို ဘီစီ-၉၄-ခုက တင်ခဲ့ကြသည်ဖြစ်ရာ၊ အနှစ်-၂၀၀ ခန့်လောက်သာ ကြာမြင့်ပါသေးသည်။

သီဟိုဠ်မှ ရခိုင်သို့ ကြွရောက်တော်မူလာခဲ့ကြသော ရဟန်းတော်အရှင်မြတ်များနှင့်အတူ စတုတ္ထသင်္ဂါယနာမူ ပိဋကတ်တော်များကိုလည်း





ပင့်ဆောင်တော်မူလာခဲ့ကြောင်း သိရှိရပါသည်။ ရခိုင်နှင့် သီဟိုဠ်တို့ ဤကဲ့သို့ အဆက်အသွယ်ရှိလာခဲ့ကြရာမှ ဝေသာလီကျောက်လှေကားခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက် (အေဒီ-၆၂၂-မှ-၆၅၈-ထိ) သို့ ရောက်ရှိလာသောအခါတွင် ရခိုင်၌ သင်္ဂါယနာတင်ရန် အကြောင်းပေါ်ပေါက်လာခဲ့ပါသည်။

ရခိုင်နှင့်သီဟိုဠ် သံဃာတော်များပူးပေါင်း၍ မြတ်ဗုဒ္ဓ၏ပိဋကတ်သုံးပုံနှင့်တကွ အဋ္ဌကထာကျမ်းဂန်များကို ကြေးပြားချပ်ရေ (၅၀၀၀) ၌ ပါဠိဘာသာဖြင့် အက္ခရာရေးထိုး၍ (အေဒီ-၆၃၅-မှ-၆၃၈-ထိ) သုံးနှစ်တိုင်တိုင် သင်္ဂါယနာတင်တော်မူခဲ့ကြပါသည်။

ရခိုင်တို့၏အဆိုပါ "ကြေးပိဋကတ်တော်" ဆိုသည်မှာ ခေတ်အဆက်ဆက် ရေရှည်တည်တံ့အောင် မှတ်တမ်းတင်ထားရှိခြင်းမျှသာ ဖြစ်ပါသည်။ သံဃာတော်အများ လေ့လာသင်ယူဆည်းပူးရန်ကိစ္စမှာ မဖြစ်နိုင်ပါ။ ထို့ကြောင့် **"ကြေးပိဋကတ်တော်"** မှတစ်ဆင့် **"ပေပိဋကတ် တော်"** အဖြစ် အစုံပေါင်းများစွာ ရေးကူးလျှဒါန်းခဲ့ရကြောင်းကို အာနန္ဒ စန္ဒြမင်းရေးထိုးခဲ့သော **"အာနန္ဒစန္ဒြကျောက်စာ"** အရ သိရှိရပါသည်။ နောင်ကိုလည်း ခေတ်အဆက်ဆက် ရခိုင်ရှင်ဘုရင်တို့သည် ပိဋကတ် တော်တို့ကို အစုံပေါင်းများစွာ ရေးကူး၍ ကုသိုလ်ပြုခဲ့ကြပါသေးသည်။

ရခိုင်ပြည်၊ ဝေသာလီခေတ် (အေဒီ-၃၂၇-မှ-အေဒီ-၈၁၈-ထိ)၊ အာနန္ဒစန္ဒြမင်းလက်ထက်၊ အေဒီ-၆၈၆ (တစ်နည်း) အေဒီ-၇၂၉-ခုနှစ်က "ကြေးပိဋကတ်တော်" မှတစ်ဆင့် "ပေပိဋကတ်တော်" သို့ပြောင်းကာ ရဟန်းသံဃာတော်အပေါင်းတို့အား အမြောက်အမြားရေးကူးလှူဒါန်း

တော်မူခဲ့သော မူကို **"ရက္ခင်ပေါတ္ထကေ = ရခိုင်ပိဋကတ်တော်ပေမူ"** ဟုခေါ်တွင်ခဲ့ကြသည်။ သက္ကတလို **"အာရက္ခပေါတ္ထကေ"** ဟူ၍လည်း ခေါ်ဆိုနိုင်သည်။

ယင်းအချိန်ကာလမှစ၍ လေးမြို့ခေတ် (အေဒီ-၈၁၈-မှ-၁၄၃၀-ထိ) က ရဟန်းသံဃာတော်တို့သည်လည်းကောင်း၊ ထိုမှတစ်ဆင့် မြောက်ဦးခေတ် (အေဒီ-၁၄၃၀-မှ-၁၇၈၄-ထိ) က ရဟန်းသံဃာတော်တို့သည်လည်းကောင်း ခေတ်အဆက်ဆက် သင်ယူဆည်းပူးလာခဲ့ကြသော "ပိဋကတ်တော်မူ" မှာ **"ရက္ခင်ပေါတ္ထကေ = ရခိုင်ပိဋကတ်တော်ပေမူ"** ဖြစ် ကြောင်း မငြင်းနိုင်သော အဖြေတစ်ခုဖြစ်ပါသည်။

အဆိုပါ "ရခိုင်ပိဋကတ်တော်ပေမူ" ဆိုသည်မှာလည်း သီဟိုဠ်ကျွန်းက ရရှိထားသော မူဖြစ်ခြင်းကြောင့် **"ရခိုင်ပိဋကတ်တော်ပေမူ"** နှင့် **"သီဟိုဠ်ပိဋကတော်ပေမူ"** တို့မှာ မကွဲမပြား တူညီမှုရှိကြောင်းကို သိရှိ ရပါသည်။ ယင်းအထောက်အထားများကို ဆက်လက်၍ ဖော်ပြပေးပါဦး မည်။

နောင်သောအခါကာလ၌ အာနန္ဒစန္ဒြမင်းသည် ဝေသာလီထီးနန်းကို ရရှိပြီးနောက် (၉) နှစ်မြောက် အေဒီ-၆၈၆ (တစ်နည်း) အေဒီ-၇၂၉-တွင် သက္ကတဘာသာဖြင့် ကျောက်စာရေးထိုးခဲ့ပါသည်။ ယင်းကျောက်စာကို **"အာနန္ဒစန္ဒြကျောက်စာ"** ဟု သမိုင်းတွင်ရစ်ခဲ့၏။ ယင်း ကျောက်စာဂါထာနံပါတ် (၅၀) တွင်-

ဣတွဟာ ဣတသံချာနိ,
ဗိမ္ဗာနိ စဲတျကမ်ဏား၊
သဒ္ဓမ် ပုသ္တကာစ္စါပိ,





လေခိတာ ဗဟုဂေး သတာ။ ။" ဟူ၍ ရေးထိုးထားပါသည်။

အဓိပ္ပာယ်မှာ - "ရွှံ့ဖြင့်ပြုလုပ် မီးဖုတ်ထားသော ဆင်းတုရုပ်ပွားတော်မြောက်မြားစွာတို့ကို ပြုလုပ်စေအပ်ပြီ။ စေတီပုထိုးမြောက်မြားစွာတို့ကိုလည်း တည်ဆောက်အပ်ပြီ။ သူတော်ကောင်းတရားဆိုင်ရာ ကျမ်းဂန်များကို အမြောက်အမြား ရေးကူးစေအပ်ပြီ။" ဟူ၍ဖြစ်ပါသည်။

အဆိုပါသမိုင်းမှတ်တမ်းမှာ ရခိုင်ပြည်၌ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက်က ရခိုင်နှင့် သီဟိုဠ်သံဃာတော်တို့ အတူတကွ တင်ခဲ့ကြသော **"တာမြက္ခရာရှဋ္ဌ-ပဥ္စမသင်္ဂါယနာ"** တင်မူကို **"အာနန္ဒစန္ဒြမင်း"** လက်ထက်သို့ ရောက်ရှိလာသောအခါ၌ ပါဠိပိဋကတ်အစုံပေါင်း မြောက်မြားစွာတို့ကို ရေးကူး၍ တစ်နိုင်ငံလုံးသို့ ကုသိုလ်အလှူဒါနပြုခဲ့ကြောင်း သမိုင်းမှတ်တမ်းတစ်ခုပင် ဖြစ်ပါသည်။

ဝေသာလီခေတ်၊ ရခိုင်၌တင်ခဲ့သော သင်္ဂါယနာမူသည် သီဟိုဠ်ကျွန်း၌ တင်ခဲ့သော စတုတ္ထသင်္ဂါယနာမူနှင့် ထပ်တူထပ်မျှဖြစ်ကြောင်းကို ရခိုင်ရာဇဝင်၌ လာရှိပါသည်။ သာဓကအနေဖြင့် ထုတ်ပြရသော်- **"ဓညဝတီအရေးတော်ပုံကျမ်း"** စာ-၂၉-၌ လေးမြို့ခေတ် (အေဒီ-၈၁၈- မှ-၁၄၃၀-ထိ)၊ လောင်းကြက်မြို့၊ ဘုရင်းမင်းထီး၏သားတော် **"ဝရဓမ္မာ ဘွဲ့ခံ ရာဇသူမင်း"** (အေဒီ-၁၃၉၄-မှ-၁၃၉၆-ထိ) လက်ထက်တွင် တိုင်း ပြည်သို့ ထုတ်ပြန်ကြေညာခဲ့သော အမိန့်ကြေညာစာတမ်းတစ်ခုတွင်-

"ဘိသိက်ဆက်မင်္ဂလာပုဏ္ဏားနှင့် အခြားပုဏ္ဏား မရောစေနှင့်။ ရဟန်းသံဃာတို့မှာလည်း မြတ်စွာဘုရား ဟောတော်မူရင်း စကားကို ရှည်ကြာထွန်းလင်းအောင် သီဟိုဠ်ကျွန်း၊ ဝဋ္ဋဂါမဏီမင်းလက်ထက် သီဟဠ

ဘာသာဖြင့် အက္ခရာတင်ထားခဲ့သည့် ပိဋကတ်သုံးပုံတို့ကိုသာ သင်ကြားလေ့လာရမည်။ ပုထုဇဥ်တို့ပြုလုပ်သော ကျမ်းဂန်များကို မလေ့မလာသင့်။ နောက်ကိုလည်း ကျမ်းဂန်မလုပ်နှင့်။ ဝိနည်းမိုရ်ဆရာတော်က နိုင်အောင်မြစ်။" ဟူ၍ တွေ့ရှိရပါသည်။ [မှတ်ချက်။ ။ လေးမြို့ခေတ်၊ ရခိုင်သံဃာတော်များ သင်ကြားပို့ချနေသော ပိဋကတ်တော်မူမှာ၊ သီဟိုဠ်ကျွန်း၊ ဝဋ္ဋဂါမဏိမင်းလက်ထက် သီဟဠဘာသာ (ပါဠိဘာသာ) ဖြင့် တင်ထားခဲ့သည့် စတုတ္ထသင်္ဂါယနာမူမှ ရခိုင်တို့ရယူထားသောမူကို ဆိုလိုခြင်း ဖြစ်ပါသည်။

အထက်ဖော်ပြပါ ဘုရင်၏ **"အမိန့်စာတမ်း"** ကို ကြည့်ခြင်းအားဖြင့် ရခိုင်ရှင်ဘုရင်တို့သည် မိမိအုပ်ချုပ်ရာ တိုင်းပြည်အတွင်း၌ ထွန်းကားနေသော ဗုဒ္ဓဘာသာ၊ သာသနာကို **"စစ်မှန်သော ထေရဝါဒ ဗုဒ္ဓဘာသာ,သာသနာ"** ဖြစ်စေလိုကြောင်း စေတနာကောင်းကို တွေ့ရှိနိုင်ပါသည်။ရခိုင်ပြည်အတွင်း မှီတင်းနေထိုင်ကြကုန်သော ထေရဝါဒဗုဒ္ဓဘာသာရဟန်းတော်များအနေဖြင့်လည်း ဘုရင်၏အလိုဆန္ဒနှင့် မဆန့်ကျင်ဘဲ၊ သဘောဆန္ဒတူမျှစွာ နေထိုင်သီတင်းသုံးတော်မူခဲ့ကြကြောင်းကိုလည်း တွေ့ရှိနိုင်ပါသည်။ ယင်းခေတ်ကာလက ရခိုင်ပြည်တွင် ထွန်းကားနေသော သာသနာသည် ဘယ်လိုသာသနာမျိုးလဲ? ဟူ၍ မေးနေစရာပင် မလိုလောက်အောင် ပေါ်လွင်ထင်ရှားလျက် ရှိနေပေတော့သည်။

လေးမြို့ခေတ်က ရခိုင်ပြည်၏ဗုဒ္ဓသာသနာ ထွန်းကားနေမှုကို မဆိုထားနှင့် နိုင်ငံရပ်ခြား တိုင်းတစ်ပါးသို့ သာသနာပြုပေးခဲ့ရသော သမိုင်းကြောင်းများမှာလည်း အထောက်အထားနှင့်တကွ ခိုင်ခိုင်မာမာရှိခဲ့ပုံကို စာရေးသူဆက်လက် တင်ပြပါမည်။ ။]



## ရခိုင်နှင့် ပင်းယသာသနာ

ရှေးခေတ် ရခိုင်ပြည်က ရဟန်းသံဃာတော်တို့သည် နိုင်ငံရပ်ခြားတိုင်းတစ်ပါး၌ ဗုဒ္ဓသာသနာဆုတ်ယုတ်ပျက်စီးနေသည်ဟုကြားလျှင်၊ ကိုယ်တိုင်ဖြစ်စေ၊ စေလွှတ်၍ဖြစ်စေ သာသနာပြုပေးခဲ့ကြပါသည်။ မြန်မာတို့၏ **"ပင်းယသာသနာ"** ဆုတ်ယုတ်နေစဉ်ကာလကလည်း ရခိုင်က ရဟန္တာအသျှင်သူမြတ်များကြွရောက်၍ သာသနာပြုပေးခဲ့ရပါသေးသည်။

ရခိုင်တို့၏ လေးမြို့ခေတ် (အေဒီ-၈၁၈-မှ-၁၄၃၀-ထိ)၊ လောင်းကြက်မြို့ (အေဒီ-၁၂၅၀-မှ-၁၄၃၀-ထိ)၊ အလောမာဖြူမင်းမှ (၉) ဆက်မြောက် ဘုရင်မင်းထီးလက်ထက် (အေဒီ-၁၂၈၃-မှ-၁၃၈၉-ထိ) တွင် မြန်မာတို့၏ပင်းယခေတ် (အေဒီ-၁၃၁၂-မှ-၁၃၆၄-ထိ)၊ ပင်းယမြို့တည် **"တစ်စီးရှင်သီဟသူ"** မင်းလက်ထက် (အေဒီ-၁၃၁၂-မှ-၁၃၂၂-ထိ) တွင် ပင်းယမြို့သာသနာညှိုးမှိန်နေစဉ် ရခိုင်တို့၏ဝေသာလီနယ်မြေ၌ သီတင်း သုံးနေထိုင်လျက်ရှိသော **"ဥပဇ္ဈာယ်ဆရာ မဟိန္ဒပါလ**

**မထေရ်မြတ်"** က သူ၏ တပည့်များထဲမှ **"အသျှင်ဒိဗ္ဗစက္ခုနှင့် အသျှင်စူဠအရဟန္တ"** ရဟန္တာ နှစ်ပါး (=ရဟန္တာဒွေ) ကို စေလွှတ်တော်မူ၍ သာသနာပြုစေခဲ့ပါသည်။

အဆိုပါ ပင်းယသာသနာပြု ရဟန္တာမထေရ်မြတ်နှစ်ပါးတို့တွင် အသျှင်ဒိဗ္ဗစက္ခု ရဟန္တာမထေရ်မြတ်သည် **"ပင်းယတစ်စီးရှင်သီဟသူ"** ၏နန်းတွင်း၌ မပြတ်ဆွမ်းလုပ်ကျွေးမှုကို ခံယူရရှိကာ၊ မင်းဆရာအဖြစ် ကိုးကွယ်ဆည်းကပ်မှုကိုလည်း ခံယူရရှိတော်မူခဲ့ပါသည်။ ပင်းယကို သာသနာပြုခဲ့ကြသည့် ရဟန္တာမထေရ်မြတ်နှစ်ပါးတို့တွင် အသျှင်ဒိဗ္ဗစက္ခု မထေရ်မြတ်၏ အမည်နာမသည်သာလျှင် ထင်ရှားခဲ့ပြီး၊ အသျှင်စူဠ အရဟန္တမထေရ်မြတ်၏ အမည်နာမမှာ မပေါ်လွင်မထင်ရှားခဲ့ချေ။ **"မိမိ၏ဇာတိမြေဖြစ်သော ရခိုင်ပြည်သို့ ပြန်လည်ကြွရောက်တော်မူလာခဲ့၍လော"** ဟု စဉ်းစားဖွယ် ရှိပါသည်။ သာသနာပြုရဟန္တာ မထေရ်မြတ်နှစ် ပါးဖြစ်ခြင်းကြောင့် **"ရဟန္တာဒွေ"** ဟုသာ မှတ်ယူသင့်ပါသည်။ **"ရဟန္တာ ထွေး"** မဟုတ်ပါ။

[မှတ်ချက်။ ။ဤအကြောင်းနှင့်ပတ်သက်၍ သာသနာလင်္ကာရ စာတမ်း၊ ဝံသဒီပနီ၊ သာသနဗဟုဿုတပကာသနီကျမ်းတို့၌ မှတ်တမ်းတင်ထားရှိခဲ့ကြသည်ကို တွေ့ရှိနိုင်ပါသည်။]

သာသနာတော်သက္ကရာဇ်-၁၈၅၆-ခု၊ ကောဇာသက္ကရာဇ်-၆၇၄-ခု၊ (အေဒီ-၁၃၁၂) တွင် **"သျှမ်းမင်းသီဟသူ"** သည် **"ဝိဇယပုရ"** ဟူသော အမည်ဖြင့် **"ပင်းယမြို့"** ကို တည်ထောင်တော်မူသည်။ နောင်အခါ ဆင် ဖြူတစ်စီးရ၍ **"တစ်စီးရှင်သီဟသူ"** ဟုတွင်သည်။ "ထိုမင်းလက်ထက် ပင်းယမြို့တွင် သီလဝန်၊ ဂုဏဝန်၊ လဇ္ဇီပေသလ





ရဟန်းသံဃာများမရှိ။ ပုဂံအရည်းတို့က ကြွင်းကျန်သော ရှင်ယောင်အရည်းတို့သာ များပြားစွာ သတည်း။ နောက် **"ရဟန္တာထွေး-အရှင်ဒိဗ္ဗစက်"** ရောက်ရာတွင်မှ လဇ္ဇီ ပေသလရဟန်းကောင်းများကို ကိုးကွယ်ရသည်။ ရှင်ဒိဗ္ဗစက်ကို နန်းတော်တွင် မပြတ်ဆွမ်းလုပ်ကျွေးတော်မူ၏။" ဟူ၍ သာသနာလင်္ကာရစာတမ်းတွင် တွေ့ရသည်။

ခေတ်သစ်မြန်မာသမိုင်းဆရာတို့သည် **"ပုဂံ"** ကို သာသနာပြုခဲ့သည့် **"သျှင်အရဟံ"** ၏ ဂုဏ်ပုဒ်ကိုသာ ချီးမွမ်းခန်းဖွင့်နေကြပြီးလျှင် ပုဂံခေတ်ကုန်ဆုံးသွားပြီးနောက်၊ ပင်းယခေတ်-ပင်းယသာသနာ ဆုတ်ယုတ်ပျက်စီးနေသည်ကို ပြန်လည်ကောင်းမွန်လာအောင် ရခိုင်ပြည်က ရဟန္တာအသျှင်မြတ်နှစ်ပါး ကြွရောက်သာသနာပြုပေးခဲ့ကြသည့် အခန်းကဏ္ဍကို ပေါ်လွင်ထင်ရှားအောင် မပြုကြသည့်အတွက် မေးမှိန်လျက်ရှိနေသည်မှာ ဝမ်းနည်းဖွယ်ကောင်းပါသည်။

သူတစ်ပါးပြုထားသော ကျေးဇူးကို သိတတ်ဖို့ လိုအပ်ပါသည်။ သိသည့်အလျောက် ပြန်၍ချီးမြှောက်ပူဇော်ဂုဏ်ပြုကြခြင်းသည် မိမိတို့၏ဂုဏ်မှာ မနိမ့်ကျသည့်အပြင်၊ ပူဇော်ထိုက်သူကို ပူဇော်ခြင်းကြောင့် မင်္ဂလာတစ်ပါးပင် ပြည့်စုံခွင့်ရရှိကြဦးမည် ဖြစ်ပါသည်။ အရာရာမှာ ကျေးဇူးမကန်းသင့်ပါ။

ပင်းယမြို့ရှိ **"ရှင်ယောင်အရည်း"** ဆိုသည်မှာ ပုဂံပြည်၊ **"အနော်ရထာမင်း"** ၏ သာသနာသန့်ရှင်းရေးကြောင့် ထွက်ပြေးတိမ်းရှောင်ကာ ရောက်ရှိနေထိုင်လာကြသော **"အရည်းကြီးလက်ကျန်"** များကို ဆိုလိုပါ သည်။ ယင်း **"ရှင်ယောင်အရည်း"** ဆိုသော အဓိပ္ပာယ်မှာ **"သိက္ခာမတင်၊ သိမ်မဝင်"** ဘဲ ရဟန်းအသွင်ကို ယူထားကြသော

ရှင်ယောင်,ရဟန်းယောင် အတုများကို ဆိုလိုခြင်း ဖြစ်ပါသည်။

အဆိုပါ **"ရှင်ယောင်အရည်း"** ခေါ် **"အရည်းကြီး"** တို့ကို **"သမုဒ္ဒ ရာဇ်"** (သမုတိရာဇ်) မင်းလက်ထက် (အေဒီ-၁၀၇-မှ-၁၅၂-ထိ) က စတင်ကိုးကွယ်လာခဲ့ကြရာ၊ **"အနော်ရထာမင်း"** လက်ထက် (အေဒီ-၁၀၄၄-မှ-၁၀၇၇-ထိ) တိုင်အောင်ဖြစ်ကြောင်း သမိုင်းက ဆိုထားသည်။

အရည်းကြီးတို့၏ နေထိုင်ရာအရပ်မှာ **"သမထီးအရပ်"** ဖြစ်သည်။ ပုဂံခေတ်က အရည်းကြီးဦးရေမှာ "သုံးကျိပ်" ရှိပြီး၊ တပည့်များမှာ **"ခြောက်သောင်း"** ရှိကြောင်း သိရှိရသည်။ အရည်းကြီးတို့၏အယူဝါဒမှာ **"အကျိုးနှင့်အပြစ်ကို မသိသော အယူဝါဒ"** ဖြစ်သည်။ လူတို့ အိမ်ထောင်မပြုမီ သတို့သမီးလောင်းကို သူတို့အား **"ပန်းဦး"** ဆက်ရသည်။

ဆံပင်မှာ လက်လေးသစ်ရှိသည်။ မုတ်ဆိတ်မွေးအရှည်ထားသည်။ မဲညစ်နက်မှောင်သော သင်္ကန်းကို ဝတ်သည်။ လက်ဖွေ့သတ်သည်။ မြင်းစီး၊ စစ်တိုက်ကျွမ်းကျင်သည်။ အရက်သေစာ သောက်စားသည်။ လူတို့ကုသိုလ်ပြုရာတွင် အလှူပစ္စည်းအနေဖြင့် **"သေရည်အိုး"** များကို ထည့်သွင်းလှူဒါန်းရသည်။ သူတို့၏ရုပ်ပုံများကို "မင်းနန်သူ" ခေါ် **"အနန္တ သူရိယ"** တည်သော ဘုရားများ၏ လိုဏ်မုခ်များအတွင်း၌ ရေးခြယ်ထားသည်ကို တွေ့ရှိနိုင်သည်။ အရည်းကြီးတို့၏ အသွင်သဏ္ဍာန်ကို **"စာဆို-ဦးပုည"** က-

"ရှေးအတီတော၊ ပုဂံပြေတွင်၊ ဆံကေသာ လက်လေးသစ်၊
မုတ်ဆိတ်မွေး ဗလပြစ်၊ မဲညစ်သည့် ဝီဝရုံ၊





တာတေလံ အကျင့်ဆိုးသော၊ ရှင်သိုးတကော့ခေါင်ကြီး၊ ရှင်မထီး။"

ဟူ၍ ကဗျာဖြင့် သရုပ်ဖော်ခဲ့သည်။ သမိုင်းသက်သေ အတိအကျရှိပါသည်။

ပုဂံအရပ်ဒေသသည် အရည်းကြီးတို့၏ ဇာတိချက်ကြွေမွေးရပ်မြေလော၊ သို့မဟုတ်-အရည်းကြီးတို့သည် ပုဂံအရပ်ဒေသသို့ မည်သည့်အရပ်ဒေသက ရောက်ရှိလာခဲ့ကြပါသနည်း၊ ပုဂံအရပ်ဒေသသို့ မည်သူတို့နှင့်အတူ ပါလာခဲ့ကြပါသနည်း၊ ရှေးခေတ်ပုဂံအရပ်ဒေသက ပုဂံသူ၊ ပုဂံသားတို့သည် အရည်းကြီးတို့၏အယူဝါဒကို မဆန့်ကျင်ဘဲ အဘယ်ကြောင့် သက်ဝင်ယုံကြည်ကိုးကွယ်ဆည်းကပ်ခဲ့ကြပါသနည်း - ဟူသော အမေးပုစ္ဆာများကို သုတေသနပြုသင့်ပါကြောင်း အကြံပြုအပ်ပါသည်။



## ရခိုင်ပြည်နှင့် ပိဋကတ်သုံးပုံ

ရခိုင်တို့၏ ဝေသာလီကျောက်လှေကားခေတ်က **“အာနန္ဒစန္ဒြ ကျောက်စာ”** အရ အာနန္ဒစန္ဒြမင်းသည် သူတော်ကောင်းတရားဆိုင်ရာ ကျမ်းဂန်ပိဋကတ်များကို အမြောက်အမြားရေးကူးစေပြီး ကုသိုလ်ပြုခဲ့ ကြောင်း သိရှိရပါသည်။

ရခိုင်လူမျိုးတို့သည် ဝေသာလီခေတ်က မင်းနှင့်အတူ ရဟန်း ရှင်လူပြည်သူတစ်ရပ်လုံး ကြိုးပမ်းအားထုတ်ခဲ့ကြသည့် ရခိုင်ပြည်၏ ဗုဒ္ဓ သာသနာတော်ဆိုင်ရာ **“ပိဋကတ်သုံးပုံအမွေအနှစ်”** များကို လေးမြို့ ခေတ် (အေဒီ-၈၁၈-မှ-၁၄၃၀-ထိ) သို့ သယ်ဆောင်ခဲ့ကြပါသည်။

လေးမြို့ခေတ်တွင်လည်း ရခိုင်တို့၏ ဗုဒ္ဓသာသနာတော်သည် နေလို,လလို ထွန်းလင်းတောက်ပခဲ့ပါသည်။ လေးမြို့ခေတ်၊ ပဉ္စာမြို့တည် **“ခေတ္တသင်မင်း”** မှ (၃) ဆက်မြောက် ရခိုင်ဘုရင် **“မင်းရင်ဖြူ”** လက်ထက် (အေဒီ-၈၄၃-မှ-၈၇၃-ထိ) တွင် ရခိုင်က **“ရဟန္တာ အသျှင် ဥတ္တမ သိရီ”** အမှူးပြုသော ရဟန္တာ-၈၀၀-တို့သည် စုပေါင်းရွတ်ဆိုပြီး **“ဧကာ ဒသမ (= ၁၁) ကြိမ်မြောက်”** သင်္ဂါယနာကို တင်တော်မူခဲ့





ကြောင်း ပညာမေဓာမော်ကွန်း (ပေမူ) အရ သိရှိရပါသည်။ အဆိုပါ မော်ကွန်းကို **“ဆေးဆရာငမဲ”** သည် ခရစ်အေဒီ-၁၈၉၈-ခုတွင် တစ်ဆင့်ကူးယူ မှတ်တမ်းတင်ထားခဲ့ကြောင်း သိရှိရပါသည်။

အထက်ဖော်ပြပါ သင်္ဂါယနာတင်သမိုင်းကြောင်းကို ကြည့်ခြင်း အားဖြင့် ဝေသာလီခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက် ပဋ္ဌမအကြိမ်သင်္ဂါယနာတင်ခဲ့သည်မှစ၍ လေးမြို့ခေတ်၊ ဘုရင်မင်းရင်ဖြူ လက်ထက်တိုင်အောင် သင်္ဂါယနာ (၁၁) ကြိမ်မြောက် တင်ခဲ့ပြီးဖြစ်ကြောင်း သိရှိရပါသည်။

အထက်ပါ မင်းနှစ်ပါးတို့၏ကြားကာလ၌ တင်ခဲ့ကြသော သင်္ဂါ ယနာပွဲများကို ဘယ်ပုံဘယ်နည်းတင်ခဲ့ကြသည်ကိုမူ အတိအကျမသိရ သေးချေ။ သို့သော် သင်္ဂါယနာတင်ခဲ့ကြသည်မှာကား အမှန်ပင် ဖြစ်ပေ လိမ့်မည်။

စာရေးသူ၏အထင်ကိုပြောရလျှင် “ယင်းအချိန်ကာလက ရခိုင် ပြည်ရှိ ရဟန္တာအသျှင်မြတ်တို့သည် နှစ်ကာလမကြာမကြာ စည်းဝေး တိုင်ပင်ညီညွတ်ကြပြီးလျှင် **“ပိဋကတ်သုံးပုံအာဂုံပြန်ဆိုပွဲ”** များကို ဆင် ယင်ကျင်းပပြုလုပ်ခဲ့ကြလေသလော” ဟု တွေးထင်မိပါသည်။

ယင်းခေတ်ကာလက ရခိုင်ပြည်၏ ဗုဒ္ဓဘာသာ၊ သာသနာတိုး တက်မြင့်မားနှုန်းကို သမိုင်းနောက်ခံအချက်အလက်များကိုကြည့်မှ သိရှိ နိုင်ပါလိမ့်မည်။ ယနေ့မျက်မှောက်ခေတ် အခြေအနေနှင့် နှိုင်းစာလျှင် ကား ဆီနှင့်ရေလောက် ကွာခြားသွားခဲ့ပြီ ဖြစ်ပါသည်။

ထိုအချိန်ကာလက ရခိုင်ပြည်၏ စီးပွားရေးအခြေအနေမှာ အထူးကောင်းမွန်ခဲ့သလို၊ နိုင်ငံရေး၊ လူမှုရေး၊ ဘာသာရေး၊ သာသနာ

ရေး၊ စာပေနှင့် ပညာရေး၊ ယဉ်ကျေးမှုနှင့် အနုပညာကအစ အလွန်မြင့်မားခဲ့သည်ကို တွေ့ရသည်။ တိုင်းသူပြည်သားတို့မှာလည်း စီးပွားရေးအထူးကောင်းမွန်သောကြောင့် ဘာသာရေး၊ သာသနာရေးကို အထူးအားပေးချီးမြှောက်နိုင်ခဲ့ကြပါသည်။

ရခိုင်လူမျိုးတို့ ခေတ်အဆက်ဆက် ဗုဒ္ဓဘာသာ,သာသနာကို မည်မျှအားပေးချီးမြှောက်ခဲ့ကြသည်ကို ရှေးခေတ်ရခိုင်စာဆိုရှင်များ ရေးစပ်သီကုံးခဲ့သည့် **"လုံးတီးလေ-လုံးတာလေ"** အမည်ရှိသော ကဗျာကသက်သေပြုလျက် ရှိနေပေတော့သည်။

"လုံးတီးလေ . . . လုံးတာလေ။ ။ သောင်းကျွန်းစကြာဝဠာ၊ တည်ရာခြင်းမူ၊ ဤဇမ္ဗူတွင်၊ တည်ထားကျင်သည်၊ ကြီးကျယ်စက်ဝန်း၊ ရခိုင်ကျွန်းသည်၊ ကြောင်းလမ်းဇင်းခါ၊ လေးဖြာရှစ်ရပ်၊ လုံးပတ်ယူဇနာ၊ တစ်ရာ့ရှစ်သန်း၊ ရခိုင်ကျွန်းဟု၊ ဓာတ်ပေါင်းတည်ရာ၊ သာသနာစောင့်တတ်၊ ရှင်ချစ်မြတ်လှ၊ ဂေါတမဟု၊ ကျိန်းတော်ပြုသည်၊ သိမ်တော်တစ်ထောင်၊ ကျောင်းဆောင်တစ်သောင်း၊ သံဃာပေါင်းအများ၊ ရဟန္တာရှစ်သိန်း၊ မြတ်ရှင်ကိန်းသည်၊ မြို့ကြီးသာလျှင်း၊ ရခိုင်သားလေ . . . လုံးတာလေ။ ။"

အထက်ပါကဗျာကို ကြည့်ခြင်းအားဖြင့် ရှေးခေတ်ရခိုင်ပြည်၏ နယ်နိမိတ်အကျယ်အဝန်းကို သိရှိရသလို၊ ရခိုင်ပြည်အတွင်း၌ ဘုရားပုထိုး၊ စေတီအမျိုးမျိုး၊ ကြောင်းလမ်းဇင်းခါအဖြာဖြာ၊ သိမ်ပေါင်းတစ်ထောင်၊ ကျောင်းပေါင်းတစ်သောင်းနှင့် ရဟန္တာပေါင်းရှစ်သိန်းဟူသော အင်အားမှာ သာမန်အင်အားမဟုတ်ပါ။ ထိုအသျှင်သူမြတ်များအတွက် ပစ္စည်းလေးပါးလုံလောက်အောင် ချီးမြှောက်ထောက်ပံ့လှူဒါန်းရမှုကိစ္စ





သည်ပင်လျှင် လွယ်ကူသော ကိစ္စမဟုတ်ပါ။ သာမန်သဒ္ဓါတရား၊ သာမန်စီးပွားရေးအင်အားဖြင့် လုံးဝမဖြစ်နိုင်ပါကြောင်း အသိပေးလိုပါသည်။

လေးမြို့ခေတ်၊ ပဉ္စာမြို့တည်၊ ခေတ္တာသင်မင်း (အေဒီ-၈၁၈-မှ-၈၂၈-ထိ) လက်ထက်မှာပင်လျှင် သာသနာထွန်းလင်းတောက်ပနေပုံနှင့် အလွန်ထင်ရှားသော ရဟန္တာအသျှင်မြတ်ကြီးများ ပေါ်ထွန်းနေပုံကို ယင်းခေတ်က **"ရခိုင်သာစွလေကဗျာ"** ကိုကြည့်ခြင်းအားဖြင့် သိရှိနိုင်ပါသည်။ ယင်းကဗျာမှာ အောက်ပါအတိုင်းဖြစ်သည်။

"သာစွလေ။ ။ ရွှေပြည်သာယာ၊ မြို့ပဉ္စာထက်၊ စိုးလာသည်မင်း၊ ခေတ္တာသင်းဟု၊ ထန်ပြင်းတေဇာ၊ ဘုန်းပညာကြောင့်၊ ပြည်ရွာအစိုး၊ ရေခမိုးသို့၊ အေးလို့ငြိမ်ငြိမ်၊ ထက်ဝတိ ံနှင့်၊ စံချိန်တစ်နှုန်း၊ ပျော်မဆုံးအောင်၊ ရှင့်ဘုန်းတက်ဝှန်၊ ပြည့်စုံလွန်ခဲ့၊ တစ်တန်သာသနာ၊ ပြည်ရွာမှာကား၊ ဖန်ဝါအရောင်၊ ထွန်းလင်းပြောင်ခဲ့၊ ဦးဆောင်ဗန္ဓဝ၊ ကောဏ္ဍညနှင့်၊ နောက်မှစဉ်ဆက်၊ မပျက်စိုက်စိုက်၊ ထပ်ချပ်လိုက်သည်၊ စရိုက်ဘာသာ၊ သာသနာ၏၊ ကောင်းရာအကျိုး၊ ထမ်းဆောင်ပိုးသည်၊ အကျိုးမျှော်ထ၊ နန္ဒိယနှင့်၊ ပဒုမအရှင်၊ ပေါ်ထင်ရဟန္တာ၊ မြတ်သံဃာတို့၊ ပဉ္စာမြို့ထက်၊ ထွန်းပေါ်ထွက်သည်။ မျိုးဆက်မဏ္ဍိုင်၊ ရက္ခိုင်သာယောင့်၊ သာစွလေ။ ရက္ခိုင်သားလေ၊ သာစွလေ။ ။"

ရခိုင်လူမျိုးတို့သည် လေးမြို့ခေတ်က မင်းနှင့်အတူ ရဟန်းရှင်လူပြည်သူတစ်ရပ်လုံး ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသည့် **"အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံအမွေအနှစ်"** များကို မြောက်ဦးခေတ် (အေဒီ-၁၄၃၀-မှ-၁၇၈၄-ထိ) သို့ သယ်ဆောင်ခဲ့ကြပြန်ပါသည်။

မြောက်ဦးခေတ်သည်ကား ရခိုင်လူမျိုးတို့၏ ဘာသာ၊ သာသနာ၊

စာပေ၊ ယဉ်ကျေးမှု၊ အနုပညာကအစ အဖက်ဖက်က အံ့မခန်းထွန်းကားခဲ့သော ခေတ်တစ်ခေတ်ဖြစ်ခဲ့ပါသည်။ ရခိုင်လူမျိုးတို့ ခေတ်အဆက်ဆက် လက်ဆင့်ကမ်းသယ်ဆောင်ပြီး ထိန်းသိမ်းစောင့်ရှောက်လာခဲ့ကြသည့် ကျမ်းဂန်စာပေ။ အဋ္ဌကထာနှင့်တကွ ပိဋကတ်သုံးပုံ။ ပြည်တွင်းပြည်ပရာဇဝင်သမိုင်း။ ဆေးကျမ်း။ နက္ခတ်ကျမ်း။ ဂဏန်းသင်္ချာကျမ်း။ နာရီကျမ်း။ အဿသျှတ္တရကျမ်း။ ဂဇသျှတ္တရကျမ်း။ အာကာသသျှတ္တရကျမ်း။ ကဗျာလင်္ကာရေးဖွဲ့ပုံကျမ်း။ ဥပဒေဆိုင်ရာ,တရားစီရင်ရေးဆိုင်ရာဖြတ်ထုံးကျမ်း။ လျှောက်ထုံးကျမ်း။ ရှေးဟောင်းကျင့်ထုံးကျမ်း။ ဆုံးမစာ။ ဓမ္မသတ်ကျမ်း။ သိုက်သမိုင်းကျမ်း။ ဗိသုကာကျမ်း။ ကုထုံးကျမ်း။ အဂ္ဂိရတ်ကျမ်း။ မြောက်ဦးမြို့တံဆိပ်ခတ်ကျမ်း။ တိတ္ထုံပါရာကျမ်း။ ဝိနိစ္ဆယကျမ်း။ စစ်ချီကျမ်း။ ရာဇာမုဒ္ဒါဘိသေကကျမ်း။ ရာဇနီတိကျမ်း။ ရာဇပုံကျမ်း။ ရာဇသတ်ကျမ်း။ ရာဇသံပတိကျမ်း-စသည်တို့ ဖြစ်ကြပြီးလျှင် **“ပေမူ”** အနေဖြင့်သာ ရှိနေကြရသော ရခိုင်ရှေးဟောင်းစာပေကျမ်းဂန်တို့မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်။

ဩပမကာရနိဒ္ဒေသကျမ်း။ ဩသဓိတာရောဘာသနိမိတ္တဟောပျို့။ ဩသဓသမူဟဆေးကျမ်းကြီး။ ဒေဝေါသဓဆေးကျမ်းကြီး။ ဥမ္မာဒန္တီလင်္ကာ။ အင်းစောက်ရာဇဝင်။ အဿကလက္ခဏာကြန်ကျမ်း။ အံ့ဖွယ်ရှစ်ဖြာသာသနာ။ ကြ္တန္ဒာဝုဓသြသဓဆေးကျမ်းကြီး။ အာဒိကပ္ပကျမ်း။ အဘိဓမ္မတ္ထဋီကာကျမ်း။ အဘိဓမ္မတ္ထသရူပဒဿနကျမ်း။ အမွေဆုံးဖြတ်ဓမ္မသတ်ကျမ်း။ အရဟတ္တမဂ္ဂဖလနိဗ္ဗာန သစ္ဆိကိရိယ သင်္ခေပကျမ်း။ အရိယသစ္စမဂ္ဂဒီပနီကျမ်း။ အရိယသစ္စဒီပကကျမ်း။ အသနီစစ်ချီဗျူဟာကျမ်း။ အသိီတိကျမ်း။ သမ္မုတ္တိဓမ္မသတ်ကျမ်း။ လောကဟိတဂမ္ဘီရကျမ်း။





ဟူးရားအခါပေးကျမ်း။ အဋ္ဌသာခါဆေးကျမ်းကြီး။ အဋ္ဌသာခါယတြာခတ်ကျမ်း။ အဋ္ဌင်္ဂုဋ္ဌီကျမ်း။ သတ္တရူပဗိသုကာကျမ်း။ သတ္တုဗိမ္ဗပူဇနိယသုတ္တံ။ သဗ္ဗပါပဿအကရဏံအဖွင့်။ သင်္ဂါယနာတင်မော်ကွန်းစာ။ အဘိဓမ္မတ္ထသင်္ဂဟခေါ် ပရမတ္ထလင်္ကာ။ သိုက်နိဒါန်းအကြောင်း သိကောင်းစရာ။ သိုက်ခတ်ကိန်းခန်းယတြာကျမ်း။ သိုက်ပြန်ခတ်ကျမ်း။ သိုက်သမိုင်းကျမ်း။ သိကြားအခါပေးကျမ်း။ သေနင်္ဂဗျူဟာစစ်ချီကျမ်း။ သေနင်္ဂဝိထိကျမ်း။ သေနင်္ဂဗျူဟာစူဠာမဏိကျမ်း။ သရဒွေး နရပတိဇေယျဇာရိယသွာရကျမ်း။ သာသနာဝင်ကျမ်း။ ရခိုင်ရာဇဝင်ဆက်။ ဝင်သုံးဆယ်ကျမ်း။ ဝဿ,မာသ,ဒိန,ယဋ္ဌိ,အသ်ာ,လိတ္တာဒိတွက်နည်းကျမ်း။ ရက္ခပူရရာဇဝံသ သင်္ခေပကျမ်း။ ဝိနယဝိနိစ္ဆယကျမ်း။ ဝိဝေကာဘိရတိဖလသင်္ခေပကျမ်း။ ဝိမလရာဇဝင်။ ဝေလာကပ္ပဝိဇ္ဇာဓရကျမ်း။ အမတ်ကြီးဝိမလလျှောက်ထုံး။ ဝိသေသထုံးနည်းပုံပြင်။ ဝိမုတ္တိရသကျမ်း။ ဝိမုတ္တိသာရကျမ်း။ ရွှေမျဉ်းဓမ္မသတ်ကျမ်း။ မင်း၏သံတမန်အင်္ဂါနှင့် ညီညွတ်သောကျမ်း။ ရူပဝိနိစ္ဆယကျမ်း။ ရူပနိကာယ်,သဒ္ဒနိကာယ် နိမိတ္တလက္ခဏာကျမ်း။ ရာဇသာရကျမ်း။ ရာဇဒသကဘိသေကကျမ်း။ ရာဇသမုတ္တိကျမ်း။ ရာဇဝံသကထာဒိကျမ်း။ ဗျူဟာဝါသနကျမ်း။ ဗျူဟာစက္ကိကျမ်း။ ကာမန္တာဏီကျမ်း။ သွာရောဒယကျမ်း။ ဆယ့်နှစ်လရာသီဖွဲ့။ ရာဇသေဝိတကျမ်း။ ရာဇသတ်ကျမ်း။ ရခိုင်ရာဇဝင်ဟောင်း။ ရခိုင်ရသာယတနဆေးကျမ်းကြီး။ ရခိုင်ရာဇဝင်အကောက်ကျမ်း။ ပကိဏ္ဏကရာဇကျင့်ထုံးလင်္ကာ။ ရာဇသေဝကသင်္ခေပကျမ်း။ ရာဇောဝါဒပျို့။ ရာဇဒသကကျင့်ထုံးကျမ်း။ ရာဇာဝသတိနိဒါန်းကျမ်း။ အချိန်နာရီကောင်းမကောင်းကို ဟောသောကျမ်း။ ယက္ခဗျူဟာစစ်ချီကျမ်း။ မြောက်ဦးမြို့ယတြာကျမ်း။ ယတြာပတြာ

ကျမ်း။ ပရမတ္ထသင်္ဂြိုဟ်လင်္ကာ။ ဗျူဟာစက္ကိကျမ်း။ မာတောဝါဒဆုံးမစာ။ မေဃဗျူဟာစစ်ချီကျမ်း။ မကန္တပူရဏကျမ်း။ ဗျာဒိတ်ရနတ်သိုက်။ မဓုကာဗျူဟာစစ်ချီကျမ်း။ မနုဓမ္မသတ်ကျမ်း။ ဗျူဟာဝါဟနစစ်ချီကျမ်း။ ဖြို့ဟတ်ကထာကျမ်း။ ဖြို့ဟတ်စစ်ချီကျမ်း။ ရခိုင်ဘားမဲ့ဝိဇ္ဇာဓရကျမ်း။ ရခိုင်ဘားမဲ့သိုက်ကျမ်း။ ဘီးလူးမသိုက်ကျမ်း။ ဗုဒ္ဓဂုဏာထောမနကျမ်း။ ဗုဒ္ဓုပ္ပတ္တိသခေ်ပကျမ်း။ ဗုဒ္ဓုပ္ပတ္တိပျို့။ ကဝိဗန္ဓပါသျှကျမ်း။ ရခိုင်နိဒါန်းကျမ်း။ ရာဇနီတိပျို့။ ဒွါဒသရာသီနက္ခတ္တဝီထိပျို့။ လေက်ရုံးလျှောက်ထုံး။ လေက်ရုံးရာဇဝင်။ လေက်ရုံးသိုက်ကျမ်း။ ဂါထာဗန္ဓနသာရကျမ်း စသည် စသည်ဖြင့် အသီးသီးရှိခဲ့ကြပြီးလျှင်-

မူလက **"သက္ကတဘာသာ"** ဖြင့် ရှိနေခဲ့ကြသည့် အိန္ဒိယဖြစ်ကျမ်းများအနက် ဟူးရာကျမ်း။ မနုဓမ္မသတ်ကျမ်း။ သာမ,ယဇု,ဣရု, အာထဗ္ဗဏ ဗေဒင်လေးပုံ။ ကလာပ်ဗျဉ္ဇိကျမ်း။ ဒဏ္ဍီကျမ်း။ ဖြို့ဟာဇ်ကျမ်း။ ရာဇမတ္တဏ်ကျမ်း။ ဇောတိတတ္တကျမ်း။ ဂေါတမပူရာဏ်ကျမ်း။ သူရိယသိဒ္ဓန္တကျမ်း။ ဂြဟာသန္တိခေါ် ဂြဟာသျှန္တိကျမ်း။ လဃုသင်္ဂဟကျမ်း။ ပေါတ္တရသာဒိကျမ်း။ သိဃ်ဗောဓကျမ်း။ အာကာသသျှတ္တရကျမ်း။ ကပ္ပဝဏ္ဏနာကျမ်း။ စာနကျနီတိကျမ်း။ ဒဗ္ဗဂုဏ (ဒဗ္ဗဂုဏ်းကျမ်း)။ ကြမ္မာဒိုက်မင်းကြီးဝတ္ထု စသောကျမ်းတို့ကိုလည်း **"ရခိုင်ဘာသာ"** သို့ ပြန်ဆိုခဲ့ကြပါသည်။

အထက်ဖော်ပြပါ စာပေကျမ်းဂန်တို့မှာ ဓညဝတီခေတ်၊ ဝေသာလီခေတ်၊ လေးမြို့ခေတ်၊ မြောက်ဦးခေတ်တို့၌ သူ့ခေတ်နှင့်သူ ထွန်းကားခဲ့သော စာပေကျမ်းဂန်များ ဖြစ်ကြပါသည်။ ဤစာရင်း၌ မပါဝင်သေးသော ရခိုင်စာပေကျမ်းဂန်တို့မှာလည်း အများအပြားပင် ရှိနိုင်သေးသလို၊ စာရင်းပျောက်သွားသော ရခိုင်စာပေကျမ်းဂန်တို့မှာလည်း အမြောက်





အမြားပင် ရှိနိုင်ပါသေးသည်။

မြောက်ဦးခေတ် ရခိုင်မင်းတို့သည် **"ပိဋကတ်တိုက်"** များဆောက် လုပ်ကာ **"ပိဋကတ်တော်"** များကို ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြပါသည်။ ပိဋကတ်တိုက်ပေါင်းမှာ မြောက်ဦးမြို့ တော်၌ပင်လျှင် (၄၈) တိုက်ရှိကြောင်း သိရှိရပါသည်။

ရခိုင်တို့၏ ရှေးဟောင်းပိဋကတ်တိုက်တို့မှာ စစ်ဘေးစစ်ဒဏ်ကြောင့် ပျက်စီးဆုံးရှုံးခဲ့ရခြင်း၊ ကိုယ့်ခွန်ကိုယ့်အားဖြင့် ပြုပြင်နိုင်စွမ်းမရှိခြင်း၊ ရာသီဥတုစသော သဘာဝဘေးဒဏ်ကြောင့် ပြိုပျက်သွားခဲ့ရခြင်း စသည်ဖြင့် လောကဓံအမျိုးမျိုးနှင့် ကြုံခဲ့ကြရပါသည်။ မြောက်ဦးခေတ်အတွင်းက တည်ဆောက်ခဲ့ကြသော ပိဋကတ်တိုက်များအနက် ယနေ့အထိ စာရင်းချလေ့လာ၍ရသေးသော ပိဋကတ်တိုက်စာရင်းမှာ (၂၉) တိုက်ရှိပါသည်။ ယင်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ မဟာမုနိကုန်း စနေထောင့်အရပ်မှ ပိဋကတ်တိုက် (၁) ခု
၂။ မြောက်ဦးမြို့ ခြင်ကိုက်ပိဋကတ်တိုက် (၁) ခု
၃။ မုတ်ဆိတ်တော်စေတီကုန်းမြေ ပိဋကတ်တိုက် (၁) ခု
၄။ ဓမ္မိကာရာမကျောင်းတိုက်အတွင်း ပိဋကတ်တိုက် (၂) ခု
၅။ လေးမျက်နှာစေတီပြင်ဘက် ပိဋကတ်တိုက် (၁) ခု
၆။ စံကားတောင်ခြေရင်း ပိဋကတ်တိုက် (၁) ခု
၇။ ကျောက်ရစ်ကေရွာလယ်ရှိ ပိဋကတ်တိုက် (၁) ခု
၈။ ဒိုင်းဝန်ကြီးဘုရား(ဒိုင်းကျီ)အနီးရှိ ပိဋကတ်တိုက် (၁) ခု
၉။ ဘုရားပေါ်ဘုရားအနောက်မြောက်ဘက် ပိဋကတ်တိုက် (၁) ခု
၁၀။ လက်ဆည်ကန် ကန်ဘောင်ရိုးရှိ ပိဋကတ်တိုက် (၂) ခု

၁၁။ ရတနာ့မာန်အောင် ပိဋကတ်တိုက် (၁) ခု
၁၂။ ပြည်စိုးကြီးဘုရား ပိဋကတ်တိုက် (၁) ခု
၁၃။ မင်းသမီးမြောင်းတောင်ထိပ်စေတီရှိ ပိဋကတ်တိုက် (၁) ခု
၁၄။ ရန်နောင်တံခါးတောင်ထိပ် ပိဋကတ်တိုက် (၁) ခု
၁၅။ ဝင်းမနားကျီတော်တံခါးထိပ် ပိဋကတ်တိုက် (၁) ခု
၁၆။ ငွေတောင်စေတီအနီး ပိဋကတ်တိုက် (၁) ခု
၁၇။ ကုန္ဒမဥ္ဇူစေတီအနီး ပိဋကတ်တိုက် (၁) ခု
၁၈။ ကိုးသောင်းဘုရားအနီး ပိဋကတ်တိုက် (၁) ခု
၁၉။ တောင်မြင့်မိုရ်နန်း၏အနောက်ဘက် ပိဋကတ်တိုက် (၂) ခု
၂၀။ ကြောင်လည်ဒုံခံတပ်အနောက်ဘက် ပိဋကတ်တိုက် (၁) ခု
၂၁။ ခေါင်းဖြူတောင်ပြင် တောင်ဘက်အနီးရှိ ပိဋကတ်တိုက် (၁) ခု
၂၂။ ဆင်ဝင်ဘုရားအနီး ပိဋကတ်တိုက် (၁) ခု
၂၃။ ဘောင်းဒွတ်ကျေးရွာရှိ ပိဋကတ်တိုက် (၂) ခု
၂၄။ သဘော်စာတိုင်အရပ် ပိဋကတ်တိုက် (၁) ခု
၂၅။ ရွှေဂူတောင်ဘုရားတောင်ခြေရင်း ပိဋကတ်တိုက် (၁) ခု

[မှတ်ချက်။ ။ မြောက်ဦးခေတ်၊ ရခိုင်ဘုရင်များ ပိဋကတ်တိုက်ဆောက်လုပ်လှူဒါန်းခြင်း ကုသိုလ်တော်မှတ်တမ်းတွင် ဒွါရာဝတီ-သံတွဲမြို့၊ ရွှေဆံတော်စေတီတောင်ခြေရင်း အနောက်မြောက်ဘက်ရှိ ပိဋကတ်တိုက်ကိုလည်း စာရင်းသွင်းရမည် ဖြစ်ပါသည်။]





## သံတွဲမြို့နယ်၊ ပြည့်ချောင်းပိဋကတ်တိုက်

သံတွဲမြို့မှ (၃) မိုင်ခန့်အကွာ ပြည့်ချောင်းတိုက်တွင် **"မြုံပြင်ရွာ"** ဟုရှိသည်။ ထိုရွာ၏ချောင်းတစ်ဖက်ကမ်း ရဝေကုန်းနှင့် (၂) ဖာလုံခန့်နေရာတွင် **"ပိဋကတ်တိုက် (သို့) ပိဋကတ်ချောင်"** ဟူ၍ ခေါ်တွင်သော နေရာတစ်ခုရှိသည်။ ယင်းနေရာသည် **"ရင်ဖုန်းတောင်ဘုရား"** မှ (၄) ဖာလုံခန့် ကွာဝေးနိုင်မည်ဟု ခန့်မှန်းရသည်။

ပိဋကတ်တိုက်၏အထက်နားတွင် **"မီးမလောင်ကြော"** ဟူ၍ရှိ သေးသည်။ ယင်းကြောတွင် ရှေးယခင်က ဘုန်းတော်ကြီးကျောင်းရှိခဲ့သည်။ ယင်းကျောင်း၌ သီတင်းသုံးတော်မူသော ဘုန်းတော်ကြီးများကို ရဝေကုန်းအထက်နား၌ နေကြကုန်သော ရခိုင်နှင့် ချင်းလူမျိုးများက ကိုးကွယ်ဆည်းကပ်ခဲ့ကြသည်။ ရွာကို မီးလောင်ခံရသဖြင့် ယင်းနေရာမှ ပိဋကတ်ချောင်သို့ ပြောင်းရွှေ့နေထိုင်လာခဲ့ကြပြီး အိမ်ခြေမှာ (၂၅/၃၀) ခန့် ရှိခဲ့ကြောင်း သိရှိရသည်။ ယခုအခါ ယင်းရွာမှာ မရှိတော့ပြီ။

သံတွဲမြို့နှင့် အလှမ်းဝေးကွာပြီး၊ သွားလာရေးခက်ခဲသော ဤကဲ့သို့ချောင်ကျကျ တောအရပ်တွင် အဘယ်ကြောင့် ဘာသာရေးဆိုင်ရာ

**"ပိဋကတ်တိုက်၊ ပိဋကတ်ချောင်"** ဟူသော ဝေါဟာရတည်ရှိနေခဲ့ရပါသနည်းဟူမူ၊ ခရစ်အေဒီ-၁၇၈၄-(ရခိုင်ကောဇာ-၁၁၄၆-ခု) မှစ၍ ၁၈၂၄-ခုနှစ်အထိ နှစ်ပေါင်း (၄၀) တိုင်တိုင် အမရပူရဘိုးတော်" **ဗဒုံမင်း"** (မောင်ဝိုင်း) သည် ရခိုင်ပြည်၌ ရှိရှိသမျှသော စာပေကျမ်းဂန်အမျိုးမျိုးတို့ကို သူ၏သစ္စာတော်ခံ ရခိုင်လေးမြို့ဝန် (ဓညဝတီ၊ ဒွါရာဝတီ၊ ရမ္မာဝတီ၊ မေဃဝတီ တို့၌ အုပ်ချုပ်ရေးတာဝန်ကိုယူထားသူ) များမှတစ်ဆင့် သိမ်းပိုက်ယူငင်လျက် ရှိနေပါသည်။ ယင်းအန္တရာယ်မှ ကင်းဝေးစေရန်အတွက် မိမိတို့အလေးအမြတ်တန်ဖိုးထားရှိခဲ့ကြသည့် ဗုဒ္ဓ၏ **"ပိဋကတ်တော်"** များကို သိမ်းပိုက်မခံရအောင် ယာယီဝှက်ထားခဲ့သောနေရာကို အစွဲပြု၍ **"ပိဋကတ်တိုက်၊ ပိဋကတ်ချောင်"** ဟူသော ဝေါဟာရ ယင်းနေရာဒေသ၌ ခေါ်တွင်လျက် ကျန်ရစ်ခဲ့ခြင်း ဖြစ်ပါသည်။

မြောက်ဦးမြို့ နယ်မြေတစ်ဝန်း၌ ကျောင်းတိုက်ကြီးပေါင်း (၃၀) နှင့် ကျောင်းငယ်ပေါင်း (၃၇၀၀) ရှိခဲ့ကြောင်း သိရှိရပါသည်။ ထိုကျောင်းတိုက်အသီးသီး၌ သီတင်းသုံးနေထိုင်တော်မူလျက် ရှိကြကုန်သော စာသင်၊ စာချ ရဟန်းသံဃာတော်များအတွက် **"ပိဋကတ်စာပေများ"** အခက်အခဲ မရှိစေခြင်းအကျိုးငှာ ပိဋကတ်တိုက်များကို ဆောက်လုပ်လှူဒါန်းပြီး ထို ပိဋကတ်တိုက်များ၌ ပိဋကတ်စာပေများကို လှူဒါန်းထားခြင်း ဖြစ်ပါသည်။

ဗုဒ္ဓဘာသာကို ကြည်ညိုလေးစားတန်ဖိုးထားသူ မင်းကောင်းမင်းမြတ်မျိုးမှန်ခဲ့လျှင် မြတ်ဗုဒ္ဓ၏အဆုံးအမဖြစ်သော **"ပိဋကတ်တော်တည်း ဟူသော အကြောင်းကြောင့်"** တစ်တိုင်းပြည်မှ တစ်တိုင်းပြည်သို့ စစ်ချီခြင်း၊ စစ်တိုက်ခြင်း၊ သတ္တဝါတွေ ဒုက္ခရောက်အောင် ပြုလုပ်ခြင်း





စသော အမှုမျိုးကို ပြုလုပ်ဖို့ဝေးစွ၊ စိတ်ကူးပင် ပေါ်ပေါက်လိမ့် မည်မဟုတ်ပါ။

**"သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ = အလှူအားလုံးတို့တွင် တရားအလှူ သည် အမြတ်ဆုံးဖြစ်၏။"** ဟူ၍ မြတ်ဗုဒ္ဓ ဟောကြားတော်မူထားခဲ့သည့် အတိုင်း သာသနာကို ကြည်ညိုလေးစားတန်ဖိုးထားသည့် ဗုဒ္ဓဘာသာဝင် တိုင်းကျိုးပြည်ပြု သာသနာပြု မင်းကောင်းမင်း မြတ်တို့အနေဖြင့်လည်း တစ်တိုင်းပြည်မှ တစ်တိုင်းပြည်သို့ ဓမ္မဒါနအဖြစ် ပိဋကတ်တော်များကို ပေးပို့လှူဒါန်းတော်မူလေ့ရှိခဲ့ကြပါသည်။

သီဟိုဠ်ရာဇဝင်နှင့် ရခိုင်ရာဇဝင်တို့အရ ပထမမြောက်ဦးခေတ် (အေဒီ-၁၄၃၀-မှ-၁၅၃၁-ထိ)၊ ဘစောဖြူမင်းလက်ထက် (အေဒီ-၁၄၅၉-မှ-၁၄၈၂-ထိ)၊ အေဒီ-၁၄၇၅-ခုနှစ်တွင် **"သီဟိုဠ်ဘုရင် ဝိဇယဗာဟုမင်း"** ထံမှ "ရခိုင်ဘုရင် ဘစောဖြူမင်း" ထံသို့ **"ပိဋကတ်သုံးပုံအစုံ"** ပို့ဆက်လာသဖြင့် ရရှိတော်မူလေသည်။ ဟု ရခိုင်ရာဇဝင်သစ်ကျမ်း၊ ဒုတိယတွဲ၊ စာ-၃၂-တွင် တွေ့ရှိရသည်။ ။ ပိဋကတ်သုံးပုံအစုံဟူသည် အဋ္ဌကထာနှင့်တကွ ပါဠိတော်အစုံကို ဆိုလိုခြင်း ဖြစ်ပါသည်။

ရာစုနှစ်ပေါင်းများစွာကဘဲ ဗုဒ္ဓဘာသာ၊ သာသနာကို ကြည်ညိုလေးစားတန်ဖိုးထားလာခဲ့ကြသည့် သီဟဠဒီပ = သီဟိုဠ်မင်းထံမှ ရက္ခင် = ရခိုင်မင်းထံသို့ ပေးပို့လိုက်သည့် အထက်ဖော်ပြပါ လက်ဆောင်ပစ္စည်းကို ကြည့်ခြင်းအားဖြင့် မင်းနှစ်ပါးစလုံးတို့၏နှလုံးသား၌ မြတ်ဗုဒ္ဓ၏အဆုံးအမ မည်မျှကိန်းအောင်းနေမည်ကို သိနိုင်လောက်ပါသည်။ ထိုမင်းများအုပ်ချုပ်နေသည့် တိုင်းပြည်ရှိ တိုင်းသူပြည်သားအပေါင်းတို့မှာလည်း မင်းတို့နှင့် ထပ်တူထပ်မျှ ရှိနေကြမည်မှာ မငြင်းနိုင်သော အဖြေများ

ဖြစ်ကြပါသည်။

သို့ဖြစ်၍ ရခိုင်ပြည်၏ဗုဒ္ဓသာသနာတော်သည် ဗုဒ္ဓ၏အဆုံးအမ ပိဋကတ်သုံးပုံနှင့်မကင်းခဲ့သလို၊ ဗုဒ္ဓသာသနာတော်ဆိုင်ရာ စေတီ၊ ပုထိုး၊ ကျောင်းကန်၊ ဘုရား အစရှိသော သာသနာ့အမွေအနှစ်များ တည်ရှိထွန်းကားရာ တိုင်းပြည်တစ်ခုလည်း ဖြစ်ခဲ့ပါသည်။ ရခိုင်နှင့် သီဟိုဠ်တို့သည် ခေတ်အဆက်ဆက် အပြန်အလှန်ဆက်သွယ်မှုရှိခဲ့ကြသလို၊ နှစ်ပြည်ထောင်၌ ထွန်းကားလျက်ရှိနေသော ဗုဒ္ဓဘာသာ,သာသနာတော်ရော၊ ဂိုဏ်းဂဏအနေဖြင့်ပါ တူညီမှုရှိခဲ့ကြသည်ကို သမိုင်းက သက်သေပြလျက် ရှိနေပေတော့သည်။

ရခိုင်ကောဇာ-၁၁၄၆-ခု (အေဒီ-၁၇၈၄) မတိုင်မီအထိ ရခိုင်ပြည်၌ဗုဒ္ဓသာသနာအဆက်ဆက် ထင်ရှားရှိခဲ့သော **"ဂိုဏ်းဂဏ"** အမည်မှာ **"မဟာသုဓမ္မာဂိုဏ်း"** ဖြစ်ကြောင်း သမိုင်းရာဇဝင်လာ မှတ်တမ်းများ အရ သိရှိရသည်။ ရခိုင်ပြည်ရှိ **"မဟာသုဓမ္မာဂိုဏ်း"** တွင် **"ဗဟုစာရဂိုဏ်း"** (=သာသနပြဟ္မစရိယ+ဂန္ထဓုရတာဝန်ကို ထမ်းဆောင်နေကြသော ပရိယတ္တိ ဝန်ဆောင် ဆရာတော်သံဃာတော်များ) နှင့် **"ဧကစာရဂိုဏ်း"** (=မဂ္ဂ ပြဟ္မစရိယ+ဝိပဿနာဓုရတာဝန်ကို ထမ်းဆောင်နေကြသော ပဋိပတ္တိ ဝန်ဆောင် ဆရာတော်သံဃာ တော်များ) ဟူ၍သာ ခွဲခြားထားသည်။ ဂိုဏ်းဂဏမှာ တစ်ခုတည်းသာ ရှိခဲ့၏။

သီဟိုဠ်ကျွန်းသည် မြတ်ဗုဒ္ဓ၏ **"စွယ်တော်ဓာတ်"** ကြောင့် ထင် ရှားကျော်ကြားလူသိများခဲ့ရသလို၊ ရခိုင်ပြည်သည်လည်း မြတ်ဗုဒ္ဓ၏ ကိုယ်စားတော် **"မဟာမုနိ"** ကြောင့် အတိုင်းတိုင်း၊ အပြည်ပြည်အထိ ပေါက်ရောက်အောင် ထင်ရှားကျော်ကြားလူသိများခဲ့ရခြင်း ဖြစ်ပါသည်။



## ရခိုင်က သီဟိုဠ်သို့ သာသနာပြုခဲ့ရခြင်း

ရက္ခင် = ရခိုင်ပြည်နှင့် သိလာမေဃ = သီဟိုဠ်နိုင်ငံတို့သည် တတိယဓညဝတီခေတ်နှောင်းကာလ အေဒီ (၂) ရာစုကပင် အပြန်အလှန်ဆက်သွယ်မှုရှိခဲ့ကြောင်းကို ရာဇဝင်သမိုင်းအထောက်အထားများအရ သိရှိရပါသည်။

ရခိုင်ပြည်မှ ရဟန်းသံဃာတော်များသည် သီဟိုဠ်နိုင်ငံသို့ သာသနာပြုခရီး ကြွရောက်တော်မူခဲ့ကြသည့် သမိုင်းမှတ်တမ်းကို ရခိုင်ရာဇဝင်ကျမ်းများ၌ သေချာစွာမှတ်တမ်းပြုစုထားရှိသည်ကို တွေ့ရသည်။

ရမ်းပြဲတောင်ကျောင်းဆရာတော်၏ **"ရခိုင်ရာဇဝင်သစ်ကျမ်း"** နှင့် ဝါးကျောင်းဆရာတော်လူထွက် ဦးပဏ္ဍိ၏ **"ဥတေနလင်္ကာနီဂုံး"** တို့၌ လာရှိသော ရခိုင်ဆရာတော်များ၏ သီဟိုဠ်နိုင်ငံသို့ သာသနာပြုခရီး သွားမှတ်တမ်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) တတိယဓညဝတီခေတ်။ စန္ဒာသူရိယမင်းမှ (၂၂) ဆက်မြောက်

သူရိယသီရိမင်းလက်ထက် (အေဒီ-၂၀၁-မှ-၂၂၁-ထိ) တွင် ဇိန မာန်အောင်ဆရာတော်ဉာဏသီရိဓိပတိအသျှင်နှင့် အဖွဲ့ဝင်ရဟန်း သံဃာ (၁၂) ပါး။

(၂) လေးမြို့ခေတ်။ ဒုတိယပရိန်မြို့တည်၊ ဒသရာဇာမင်းထက်ထက် (အေဒီ-၁၁၂၃-မှ-၁၁၃၉-ထိ) တွင် ဆရာတော်အတုလဝိဇယ (ဂဏပါမောက္ခ) အသျှင်နှင့် အဖွဲ့ဝင်ရဟန်းသံဃာ (၂၆) ပါး။

(၃) လေးမြို့ခေတ်။ နေရဉ္စရာတောင်ငူမြို့တည်၊ မဥ္စူသင်မင်းမှ (၂) ဆက်မြောက် ငရမန်မင်းလက်ထက် (အေဒီ-၁၁၆၆-မှ-၁၁၆၈-ထိ) တွင် ဆရာတော်ဥတ္တရဓမ္မသံဃာဓိပတိအသျှင်နှင့် အဖွဲ့ဝင် ရဟန်းသံဃာ (၃၆) ပါး။

(၄) မြောက်ဦးခေတ်။ ပထမမင်းဆက် မင်းစောမွန်မှ (၃) ဆက်မြောက် ဘစောဖြူမင်းလက်ထက် (အေဒီ-၁၄၅၉-မှ-၁၄၈၂-ထိ) တွင် ဆရာ တော်သိဒ္ဓတ္ထမထေရ်ကျော်နှင့် အဖွဲ့ဝင်ရဟန်းသံဃာ (၅၀) ပါး။

(၅) မြောက်ဦးခေတ်။ ပထမမင်းဆက် မင်းစောမွန်မှ (၁၂) ဆက်မြောက် မင်းခေါင်ရာဇာလက်ထက် (အေဒီ-၁၅၂၀-မှ-၁၅၃၁-ထိ) တွင် သံတွဲမြို့မှ ဆရာတော်တေဇောသာရနှင့် မြောက်ဦးမြို့မှ မြောက်တန် ဆောင်းဆရာတော် ဓမ္မဝိလာသတို့ အသျှင်မြတ်နှစ်ပါးနှင့် အဖွဲ့ဝင် ရဟန်းသံဃာတော်များ။

(၆) မြောက်ဦးခေတ်။ ဒုတိယမင်းဆက် မင်းဗာကြီးမှ (၆) ဆက်မြောက် မင်းရာဇာကြီးလက်ထက် (အေဒီ-၁၅၉၃-မှ-၁၆၁၂-ထိ) တွင် မြောက်ဦးမြို့မှ မြောက်တန်ဆောင်းဆရာတော် စန္ဒဝိလာသနှင့် အဖွဲ့ဝင်ရဟန်းသံဃာ (၂၀) ပါး။





(၇) မြောက်ဦးခေတ်။ တတိယမင်းဆက် နရပတိမင်းမှ (၉) ဆက်မြောက် မာရုမ္ပိယမင်း (ဂူဖြူ) လက်ထက် (အေဒီ-၁၆၉၆-မှ-၁၆၉၇-ထိ) တွင် မြောက်ဦးမြို့မှ သတ္တဌာနဆရာတော်ဣန္ဒမဥ္ဇူနှင့် လောင်း ကြက်ဆရာတော်နန္ဒိစက္ကတို့ ဦးဆောင်၍ အဖွဲ့ဝင်ရဟန်းသံဃာ (၄၀) ပါး။

ဤသည်တို့ကား ရက္ခင် = ရခိုင်ပြည်မှ ရဟန်းသံဃာတော်များ သည် သိလာမေဃ = သီဟိုဠ်သို့ ခေတ်အဆက်ဆက် ကြွရောက်သာသနာ ပြုခဲ့ကြရသည့် သာသနာပြုမှတ်တမ်းများပင် ဖြစ်ပါသည်။ ယင်းမှတ် တမ်းများအရ ရခိုင်ပြည်၏ဗုဒ္ဓသာသနာနှင့် သီဟိုဠ်နိုင်ငံ၏ ဗုဒ္ဓသာသနာ သည် မည်မျှဆက်စပ်မှုရှိခဲ့ကြောင်း သိရှိနိုင်ပါသည်။

ခေတ်အဆက်ဆက် အိန္ဒိယ၊ သီဟိုဠ်၊ ရခိုင်တို့သည် ပင်လယ် ရေကြောင်းခရီးသွားလာမှုကို အားကိုးအားထားပြုခဲ့ကြရပြီး၊ ရေကြောင်း ခရီးသွားလာမှု အဆင်ပြေသော နိုင်ငံဒေသများဖြစ်၍ ဗုဒ္ဓဘာသာ၊ သာသနာ၊ စာပေ၊ ယဉ်ကျေးမှုများ ဦးစွာထွန်းကားခဲ့ရခြင်း ဖြစ်ပါသည်။

ရခိုင်နှင့် သီဟိုဠ်သည် အတန်အသင့် ခရီးလှမ်းသည်ဟု ဆိုနိုင် သော်လည်း အိန္ဒိယနှင့် ရခိုင်မှုကား နယ်မြေချင်းထိစပ်လျက် တည်ရှိခဲ့ ကြပါသည်။ ထို့ကြောင့် အိန္ဒိယမြောက်ပိုင်း၊ ဂင်္ဂါမြစ်ဝှမ်းဒေသ၌ ထွန်း ကားလျက်ရှိသော ယဉ်ကျေးမှုများ၊ အထူးသဖြင့် ကိုးကွယ်ဆည်းကပ်မှု ဘာသာတရားနှင့် စာပေစသော ယဉ်ကျေးမှုများ ရခိုင်ပြည်သို့ ရောက် ရှိလာခဲ့ကြခြင်းဖြစ်သည်ဟုဆိုလျှင်၊ ထိုစကားသည် **"သဘာဝယုတ္တိမကင်း"** သော စကားပင် ဖြစ်ပါလိမ့်မည်။

ဝေသာလီကျောက်လှေကားခေတ်တွင် ရခိုင်နှင့် သီဟိုဠ်တို့

အဆက်အသွယ်ရှိခဲ့ကြပုံကို သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက်၊ ပညာရှိအမတ်ကြီးမေဓပညာ၏ **"မေဓပညာမော်ကွန်း"** တွင် တွေ့ရသည်။ ယင်းမော်ကွန်းအရ ရခိုင်ပြည်၊ ဝေသာလီမြို့တော်၌ အေဒီ-၆၃၅-မှ-၆၃၈-အထိ သုံးနှစ်တိုင်တိုင် သင်္ဂါယနာတင်ခဲ့ကြသော **"ပဉ္စမသင်္ဂါယနာ တင်ပွဲတော်"** သို့ သီဟဠဒီပ = သီဟိုဠ်မှ **"သတငါးလီ"** = သံဃာတော် အပါး (၅၀၀) ကြွရောက်တော်မူခဲ့ကြ ကြောင်း သိရှိရပါသည်။

အလားတူ "ဝေသာလီဘုရင် အာနန္ဒစန္ဒြမင်းကြီး" လက်ထက် (အေဒီ-၆၆၀-မှ-၆၇၇-ထိ) တွင် သိလာမေဃ = သီဟိုဠ်နိုင်ငံ၌ ကျင်းပ ပြုလုပ်နေသော "သံဃာ့ညီလာခံပွဲတော်" သို့ တက်ရောက်နေကြသည့် ရဟန်းသံဃာတော်အသျှင်မြတ်များအား ကုသိုလ်အလှူဒါနပြုခဲ့ပုံကို အာနန္ဒစန္ဒြကျောက်စာ၊ ဂါထာနံပါတ် (၆၀) တွင်-

"ဓမ္မာနံ ဟဉ္ဆိနိကောတ္တမေကာ။

ဘူပေန နေဩာဇလ စီဝရာဏိ။

ဘိက္ခုသံဃဿ ဟိနာယိတာနိ။

ဒေသေ သိလာမေဃ နရာဓိပဿျ။" ဟူ၍ ရေးထိုးထားပါသည်။ အဓိပ္ပာယ်မှာ - "သိလာမေဃ (သီဟိုဠ်) မင်း၏တိုင်းပြည်၌ အရိယာ ရဟန်းသံဃာတော်မြတ်အပေါင်းတို့အား တရားဟောပလ္လင်,ကောင်းမြတ် သော ဆင်မယဉ်သာတစ်ကောင်နှင့် တောက်ပသော ပိုးသက်န်းတို့ကို ပို့လွှတ်လှူဒါန်းတော်မူလေပြီ။" ဟူ၍ဖြစ်ပါသည်။

အာနန္ဒစန္ဒြမင်းကြီးသည် မိတ်ဆွေနိုင်ငံဖြစ်သော သိလာမေဃ = သီဟိုဠ်၌ ကျင်းပပြုလုပ်နေသည့် **"သံဃာ့ညီလာခံပွဲတော်"** သို့ ပေးပို့





လှူဒါန်းခဲ့သည့် ကုသိုလ်အလှူတော်စာရင်းတွင်-

(၁) တရားဟောပလ္လင်။ ။ လှူဒါန်းခြင်းမှာ ထိုညီလာခံပွဲတော်ကျင်းပ ရာ ဓမ္မသဘင်ခန်းမဆောင်၌ သံဃာတော်အသျှင်မြတ်များ အသုံးပြုရန်အတွက် ဖြစ်သည်။

(၂) ကောင်းမြတ်သော ဆင်မယဉ်သာတစ်ကောင်။ ။ လှူဒါန်း ခြင်းမှာ တစ်မြို့မှတစ်မြို့၊ တစ်ဒေသမှတစ်ဒေသသို့ ပိဋကတ် တော်များ ပင့်ဆောင်တော်မူရာတွင် အသုံးပြုရန်အတွက် ဖြစ် သည်။

(၃) တောက်ပသော ပိုးသင်္ကန်းများ။ ။ (တစ်နည်း) သစ်လွင် ကောင်းမွန်သော ပိုးသင်္ကန်းများကို လှူဒါန်းခြင်းမှာ ကြွရောက် လာသော သံဃာတော်များအတွက် အလှူဝတ္ထုပစ္စည်းအနေဖြင့် ဆက်ကပ်လှူဒါန်းရန် ဖြစ်သည်။

ဝေသာလီခေတ်က **"အာနန္ဒစန္ဒြမင်းကြီး"** သည် နိုင်ငံရပ်ခြား တိုင်းတစ်ပါးသို့ အလှူဝတ္ထုပစ္စည်းများ ပေးပို့လှူဒါန်းကူညီခဲ့ခြင်းသည် နှစ်နိုင်ငံချစ်ခင်ရင်းနှီးမှု၊ အပြန်အလှန်လေးစားခင်မင်မှု မည်မျှရှိကြောင်း ကို ပြသရာရောက်ခဲ့ပါသည်။ ထိုသို့ဆိုလျှင် မိမိတိုင်းပြည်အတွင်း၌ရှိနေ ကြသော ရဟန်းသံဃာတော်များကို မည်ကဲ့သို့သဘောထားခဲ့ပါသနည်း ဟုမေးလာလျှင် အာနန္ဒစန္ဒြကျောက်စာ၊ ဂါထာနံပါတ် (၅၃) တွင်-

"လေ့ာ်ဟပါတြာ ဏျနေကာနိ၊

သန္ဒေတြ စီဝရာဏိစ။

နာနာဒေဓါ ဂတာနဝံစ၊

ဘိက္ခုဏာံ ဂေါ်ရဝါဒ္ဒဒေါ်။ ။" ဟူ၍ ရေးထိုးကာ မှတ်တမ်း

တင်ထားခဲ့ပါသည်။ အဓိပ္ပာယ်မှာ - "**အရပ်ရှစ်မျက်နှာမှ ကြွရောက်လာ ကြသော ရဟန်းတော်များအား ရိုသေလေးမြတ် သဖြင့် ကြေးသပိတ်များ နှင့် ကောင်းမွန်သော ပိုးထည်သင်္ကန်းများကို ပေးလှူအပ်ပြီ။**" ဟူ၍ဖြစ်ပါသည်။ ဤစာသား၏အဓိပ္ပာယ်ကို ကြည့်ခြင်းအားဖြင့် အာနန္ဒစန္ဒြမင်းကြီး၏ ဗုဒ္ဓသာသနာအပေါ်၌ ကြည်ညိုလေးစားတန်ဖိုးထားသည့် ထူးခြား မွန်မြတ်သော စိတ်ဓာတ်ကို တွေ့ရှိနိုင်ပါသည်။ တိုင်းကျိုးပြည်ပြု သာသနာပြု မင်းကောင်း မင်းမြတ် တစ်ပါးဖြစ်သော ရခိုင်တို့၏ ဝေသာလီဘုရင် အာနန္ဒစန္ဒြ မင်းကြီးအား အထူးပင် လေးစားဂုဏ်ယူထိုက်ပါပေ၏။

ရခိုင်ဝေသာလီမင်းတစ်ပါးဖြစ်သော၊ ဗုဒ္ဓဘာသာ,သာသနာကို ကြည်ညိုလေးစားတန်ဖိုးထားသော၊ စိတ်နေစိတ်ထား မွန်မြတ်သန့်စင်သော၊ ချစ်ခင်လေးစားထိုက်သော၊ တိုင်းကျိုးပြည်ပြုသာသနာပြု မင်းကောင်းမင်းမြတ်တစ်ပါးဖြစ်သည့် အာနန္ဒစန္ဒြမင်း၏ "**သဘောထားခံယူချက်**" ကိုလည်း ကြည့်ကြပါဦး။ အာနန္ဒစန္ဒြကျောက်စာ၊ ဂါထာနံပါတ် (၅၄) တွင်-

"ဒါနပါရမိတာ ဟိနာ၊
မာ မေ ဘဝတု ဇန္တုမု။
တသ္မာ ဒုပါသကေနာပိ၊
သဗ်သတ္တ ဟိတေမိဏာ။ ။" ဟူ၍ မှတ်တမ်းတင်ထားခဲ့ပါသည်။ အဓိပ္ပာယ်မှာ - "အကျွန်ုပ်၏ ဒါနပါရမီသည် သတ္တဝါတို့အပေါ်၌ မချို့တဲ့စေသတည်း။" ထို့ကြောင့် သတ္တဝါအားလုံး၏ အကျိုးစီးပွားကို အလိုရှိသည်ဖြစ်၍ ဗုဒ္ဓဘာသာဝင် ဥပသကာတစ်ဦးဖြစ်သော်လည်း-"





ဟူ၍ ဖြစ်ပါသည်။

ဤကား ဝေသာလီခေတ်က သိလာမေဃ = သီဟိုဠ်ပြည်နှင့် ရက္ခင် = ရခိုင်ပြည်၏ အခြေအနေကို နှိုင်းယှဉ်ကြည့်နိုင်ရန် "**အာနန္ဒစန္ဒြကျောက်စာ**" မှ ကောက်နုတ်ဖော်ပြချက် ဖြစ်ပါသည်။ "**တာမြကွာရာရှင့-ပဋ္ဌမသင်္ဂါယနာ**" တင်ခဲ့ကြသည့် ရခိုင်ပြည်၊ ဝေသာလီခေတ်၏ ဘာသာရေး၊ သာသနာရေး၊ စီးပွားရေးကအစ အခြေအနေအရပ်ရပ်အားလုံးတို့သည် မည်သည့်အဆင့်အတန်းတွင် ရှိနေပါသနည်း၊ဟု မေးလာလျှင် သော်လည်းကောင်း၊ ခေတ်အဆက်ဆက် ရခိုင်ပြည်တွင် ထွန်းကားခဲ့သော ဗုဒ္ဓသာသနာတော်သည် "**ထေရဝါဒလော, မဟာယာနလော**" ဟုမေးမြန်းလာလျှင်သော်လည်းကောင်း၊ ဖြေဆိုနိုင်ရန် အတွက် ခိုင်မာသော ကျောက်စာထဲက အနည်းငယ်မျှ ကောက်နုတ်တင်ပြလိုက်ခြင်း ဖြစ်ပါသည်။



## “မြန်မာနိုင်ငံ၊ မန္တလေးမြို့၌ ပဥ္စမသင်္ဂါယနာတင်ခြင်း”

သာသနာတော်သက္ကရာဇ်-၂၄၁၂-ခုမှ၊ ၂၄၁၅-ခုထိ၊ ကောဇာသက္ကရာဇ်-၁၂၃၀-မှ-၁၂၃၃-ထိ၊ (ခရစ်အေဒီ-၁၈၆၈-မှ-၁၈၇၁-ထိ) တွင် မြန်မာနိုင်ငံ၊ မန္တလေးမြို့၌ မင်းတုန်းမင်းကိုအမှီပြု၍ အကြီးအမှူး ဆရာတော်ကြီးသုံးပါး (အသျှင်ဇာဂရာဘိဝံသ၊ အသျှင်သုမင်္ဂလာဘိဝံသ၊ အသျှင်နရိန္ဒာဘိဓဇ) အမှူးပြုသော သံဃာတော်ပေါင်း (၂၄၀၀) တို့သည် မန္တလေးတောင်ခြေ မင်္ဂလာတန်ဆောင်းတော်ကြီး၌ ကျောက်ထက်အက္ခရာရေးထိုး၍ **“သေလက္ခရာရုဠှ-ပဥ္စမသင်္ဂါယနာ”** တင်တော်မူခဲ့ကြ ပါသည်။

ဤအကြောင်းကို **“ဆီးပန်းနီဆရာတော် အသျှင်နရိန္ဒ”** က **“အက်ချင်းကဗျာ”**ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုခဲ့ပါသည်။

မင်းချင်းလေ။ ။ ကုန်းဘောင်ရွှေပြည်။ ထောင်ဦးတည်သား။ ဇာနည်ဥက္ကာ၌။ ဘေးလောင်းနတ်မှ။ မပြတ်စည်းရုံး။ ပွားပြုံးပွားပြုံး။ မုတ္တာကုံးသို့။ မင်းဆုံးနှင်နှင်။ သိုက်ဝင်ဒသမ။ ကွာပိန္ဒကား။ စကြာ့တန္ခုန်း။ သက္ကာဘုန်းဖြင့်။ ကုန်း,အင်း,ကိုင်း,အ,မ။ ငါး႒ာနတွင်။ မအက္ခရာ။ မဏ္ဍာ





လာကို။ ပထမာဒိက။ လက်မွန်စ၍။ ရာဇနဂရေ။ မင်းနေပြည်ကြီး။ ဖန်ဆင်းပြီးသော်။ စောထီးမြတ်စွာ။ န-လေးဖြာဖြင့်။ မှာတော်မူခဲ့။ ပုန်းရာမဲ့ကို။ ပြဲ့ပြဲ့ထင်မြင်။ ရှုဆင်ခြင်၍။ သဿရာဝဠ်။ လွတ်ပစေသော။ ကျွတ်စေသြဟု။ မနောပဏီဓိ။ ရည်သန်ရှိလျက်။ ပကတိငွေရောင်။ သလင်းတောင်မှ။ ယူဆောင်ကျောက်ချပ်။ တမော့အပ်၍။ ပွတ်သပ်ပြီးခါ။ သာသနာမူ။ ဃာ,နာ,ဝ,ရ။ ဂေါစာပုံရေး။ ဒွေး,ဒွေး,ဒွေက။ သရဒသဘင်။ ဦးရက်တွင်၌။ ရေးတင်ဆစ်ထု။ လက်သားစုကို။ သုမင်္ဂလာ။ ဇာဂရာနှင့်။ နရိန္ဒာဘိဓဇ။ အတုလမိပ်။ တံဆိပ်တင်မှတ်။ ပိဋကတ်ကို။ ပတ်ပတ်ရစ်လှိမ့်။ စက်နှယ်အိမ့်သား။ နှစ်သိမ့်လောက်စွာ။ ထေရ်သုံးဖြာတို့။ သချာဖြတ်တည်း။ ပြင်ဆင်လှည်းသည်။ ဝိနည်းဘိဓမ္မာ။ သုတ္တန္တာဟု။ ရာတစ်ဆယ့်တစ်။ နှစ်ရာ့ရှစ်နှင့်။ ဇော,အစ်,သုည။ ပေါင်းလကမူ။ ခုနစ်ရာ့နှစ်ဆယ်။ ကိုးသွယ်ချပ်မှန်။ ဓမ္မခန်ရှစ်သောင်း။ လေးထောင်ပေါင်းကား။ သျှင်ကောင်းသာသနာ။ နှစ်ထောင်သာလျက်။ လေးရာဆယ့်နှစ်။ သက္ကရာဇ်မူ။ တစ်,နှစ်,သုံး,နောက်။ သုညပေါက်၍။ လရောက်ကဆုန်။ ပုဏ္ဏာဖိတ်နေ့။ ပြီးစုံစေ့ရှင့်။ ချမ်းမြေ့နှစ်သက်။ အထက်လေးဖြာ။ သင်ယနာတွင်။ သေလာရုဠှ။ ပဥ္စမသင်္ဂါယနာ။ တင်ပြန်လှာသည်။ ရတနာပုံနန်းတွင်တည့်လေး။ ။ သူကောင်းဖော်ရွှေမင်းချင်းတို့။ ။

[မှတ်ချက်။ ။ ဆရာတော်ကြီးသုံးပါးဘွဲ့အမည်နှင့် နေထိုင်သီတင်းသုံးတော်မူရာ ကျောင်းတိုက်မှာ-

(၁) စီးတော်မြင်းဝန်တိုက် ဆရာတော်ကြီးအသျှင်သုမင်္ဂလ

(၂) ဘုရားကြီးတိုက် ဆရာတော်ကြီးအသျှင်ဇာဂရ

(၃) ဆီးပန်းနီတိုက် ဆရာတော်ကြီးအသျှင်နရိန္ဒ တို့ဖြစ်ကြပါ

သည်။]

[မှတ်ချက်။ ။ သီဟိုဠ်ကျွန်း၌ **"စတုတ္ထသင်္ဂါယနာ"** တင်ပြီးချိန်သည် ဘီစီ-၉၄-ခု ဖြစ်၏။ မြန်မာနိုင်ငံ၊ မန္တလေးမြို့၌ **"ပဉ္စမသင်္ဂါယနာ"** တင်ပြီးချိန်သည် အေဒီ-၁၈၇၁-ခုဖြစ်၏။ ထိုသင်္ဂါယနာတင်ပွဲနှစ်ခု၏ အချိန်ကာလကွာခြားချက်ကို တွက်ကြည့်သော် နှစ်ပေါင်း (၁၉၆၅) နှစ်ခန့် ကွာခြားနေကြောင်း တွေ့ရ၏။ နှစ်ပေါင်း (၂၀၀၀) နီးပါးခန့် ကြာမြင့်ခဲ့ပါသည်။ အဘယ်ကြောင့် ဤမျှဝေးကွာခဲ့ရပါသနည်း။ ယင်းဝေးကွာမှုကိုပင်လျှင် စဉ်းစားတွေးတောစရာဖြစ်နေပါသည်။

ဗမာလူမျိုးတို့တွင် **"ပုဂံ၊ ပင်းယ၊ အင်းဝ၊ တောင်ငူ၊ ညောင်ရမ်း၊ ကုန်းဘောင်"** ဟူ၍ ခေတ် (၆) ခေတ် ထွန်းကားခဲ့ရာ၊ ကုန်းဘောင်ခေတ် နေဝင်ချိန်ရောက်ခါနီးကာမှ အဘယ်ကြောင့် သင်္ဂါယနာတင်ရန် စိတ်ကူးပေါ်ခဲ့ကြပါသနည်း-ဟူသော အချက်ကလည်း မေးစရာ ဖြစ်နေပါသည်။]

သီဟိုဠ်ကျွန်း၌ စတုတ္ထသင်္ဂါယနာတင်စဉ်က ရဟန္တာအသျှင်မြတ်များသည် ပိဋကတ်သုံးပုံတို့ကို **"နှုတ်တက်အာဂုံဆောင်"** ၍ တင်ခြင်းငှာ စွမ်းနိုင်ပါသော်လည်း မတင်ခဲ့ကြချေ။ အဘယ်ကြောင့်ဆိုသော် နောင် အနာဂတ်ကာလ၌ ပုထုဇဉ်ရဟန်းတော်များသည် သတိ၊ ပညာ၊ သဒ္ဓါ ယုတ်လျော့လာကြသဖြင့် နှုတ်တက်အာဂုံဆောင်နိုင်ကြလိမ့်မည်မဟုတ် ခြင်းကြောင့်၊ **"ပေရွက်"** မှာ အက္ခရာရေးထိုး၍ သင်္ဂါယနာတင်တော်မူခဲ့ ကြခြင်း ဖြစ်ပါသည်။ ယင်းသင်္ဂါယနာကို **"ပေါတ္ထကာရုဠှ-သင်္ဂါယနာ"** ဟုခေါ်ပါသည်။

အောင်မြေသာစည်



သင်္ဂါယနာတင်ရန် ပစ္စည်းအနေဖြင့် **"ပေရွက်"** ကို ရွေးချယ်ခဲ့ကြခြင်းမှာလည်း ပေရွက်၏သက်တမ်းသည် အနှစ်တစ်ထောင် (၁၀၀၀) ခန့် သက်တမ်းရှိပါသည်။ စတုတ္ထသင်္ဂါယနာတင် ရဟန္တာအသျှင်မြတ်များအနေဖြင့် **"နောင်နှစ်ပေါင်းတစ်ထောင်ကာလအတွင်း၌ ဗုဒ္ဓဘာသာ ကို ကြည်ညိုလေးစားသူ မင်းနှင့်တကွ ရဟန်းရှင်လူတို့က ထပ်မံ၍ သင်္ဂါ ယနာတင်ကြပေလိမ့်မည်"** ဟု ဆန္ဒရှိခဲ့ကြပါသည်။

သီဟိုဠ်ကျွန်း၊ စတုတ္ထသင်္ဂါယနာတင် ရဟန္တာအသျှင်မြတ်များ၏ ဆန္ဒရှိခဲ့ကြသည့်အတိုင်း ရခိုင်ပြည်၊ ဝေသာလီခေတ်က ရခိုင်နှင့် သီဟိုဠ်သံဃာတော်များသည် နှစ်ပေါင်းတစ်ထောင်မပြည့်မီ (၇၃၂) နှစ်အရောက်တွင်၊ ကြေးနီ,ကြေးဝါပြားထက်၌ အက္ခရာရေးထိုး၍ **"ပဉ္စမ သင်္ဂါယနာတင်ပွဲ"** ကို အောင်မြင်စွာ ကျင်းပတော်မူနိုင်ခဲ့ ကြပါသည်။

ဝေသာလီခေတ်၊ ရခိုင်လူမျိုးတို့သည် သင်္ဂါယနာတင်ရန်ပစ္စည်းကို **"ပေရွက်"** ထက် အဆပေါင်းများစွာ အဆင့်မြင့်သော ကြေးနီ,ကြေးဝါပြားများကို ရွေးချယ်ခဲ့ကြခြင်းမှာ၊ တိုင်းပြည်၏စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအပေါ် မူတည်ကာ၊ မြတ်ဗုဒ္ဓသာသနာ ရေရှည်တည်တံ့မှုကိုရှေ့ရှု၍ ကြေးထည်ပစ္စည်းကို ရွေးချယ်ခဲ့ကြခြင်း ဖြစ်ပါသည်။ ကြေးနီ,ကြေးဝါများကို ပေရွက်ပြားသဖွယ် စီမံကာ၊ ယင်းကြေးပြားပေါ်၌ အက္ခရာရေးထိုး၍ သင်္ဂါယနာတင်တော်မူခဲ့ကြပါသည်။ ယင်းသင်္ဂါယနာကို **"တာမြက္ခရာရုဠှ-ပဉ္စမသင်္ဂါယနာ"** ဟု သမိုင်းတွင်ရစ်ခဲ့ပေတော့သည်။



အောင်မြေသာစည်

## “မြန်မာနိုင်ငံ၊ ရန်ကုန်မြို့၌ ဆဋ္ဌသင်္ဂါယနာတင်ခြင်း”

သာသနာတော်သက္ကရာဇ်-၂၄၉၈-ခု၊ ကောဇာသက္ကရာဇ်-၁၃၁၆-ခု၊ (အေဒီ-၁၉၅၄-ခု) ကဆုန်လပြည့်၊ တနင်္လာနေ့၊ ၁၂-နာရီ၊ ၁၂-မိနစ်၊ ၃၀-စက္ကန့်၊ ၄၀-အနုစက္ကန့်အချိန်တွင် ရန်ကုန်မြို့၊ သီရိမင်္ဂလာကမ္ဘာအေးကုန်းမြေအတွင်းရှိ **“ဆဋ္ဌသင်္ဂီတိ မဟာပါသာဏဂူဟာ”** လိုဏ်ဂူ တော်ကြီး၌ နိုင်ငံတော်အစိုးရကို အမှီပြု၍ မန္တလေးမြို့၊ မိုးကောင်းတိုက် ဆဋ္ဌသင်္ဂီတိ မဟာနာယက အဘိဓဇမဟာရဋ္ဌဂုရု **“ညောင်ရမ်းဆရာတော် ဘဒ္ဒန္တရေဝတမထေရ်”** အမှူးပြုသော သံဃာတော်ပေါင်း (၂၅၀၀) တို့ သည် နှစ်နှစ်တိုင်တိုင် “ပေါတ္ထကာရုဋ္ဌ-ဆဋ္ဌသင်္ဂါယနာ” တင်တော်မူခဲ့ ကြပါသည်။

ဤအကြောင်းကို **“သံတွဲမြို့၊ အောင်မြေသာစည် ဆရာတော်”** က **“အဏ်ချင်းကဗျာ”** ဖြင့် ဤသို့ရေးဖွဲ့စပ်ဆိုထားပါသည်။

မင်းချင်းလေ။ ။ မရမ္မရဋ္ဌ။ ပြည်ဌာနဝယ်။ ဗုဒ္ဓသာသနာ။
စည်ပင်ဖြာ၍။ ရှည်ကြာထွန်းသစ်။ တည်တံ့လစ်ဖို့။ သက္ကရာဇ်-သာသနာ။
နှစ်ထောင်မှာလျှင်။ လေးရာကိုးဆယ်။ ရှစ်ခုဆွယ်၍။ ဖြိုးကြွယ်ကဆုန်။

အောင်မြေသာစည်



လပြည့်ကြုံသော်။ ရဂုံချမ်းမြေ့။ ကျားမင်းနေ့တွင်။ ပျော်မွေ့ဖွယ်စုံ။
ရန်ကုန်သာစွ။ မြို့ဌာန၏။ အလှစုံညီ။ ဂုဏ်ပေါင်းချီသား။ သီရိမင်္ဂလာ။
ကျက်သရေဖြာလျက်။ ကမ္ဘာအေးမြေ။ ကုန်းမြတ်ဗွေရှိ။ **“ဆဋ္ဌသင်္ဂီတိ,
မဟာပါသာဏဂူဟာ”**။ သညာထင်ပေါ်။ လိုဏ်ဂူတော်၌။
မပေါ်အံ့ချီး။ ခြိမ့်ခြိမ့်ဟည်းမျှ။ **“ဝန်ကြီးချုပ်ဦးနု”**။ ကြီးမှူးပြုလျက်။
လေးခုပစ္စယ။ ထောက်ကူကြ၍။ ဓမ္မသဘင်။ ပွဲကြီးယင်ခဲ့။ စံတင်
လောက်စရာ။ ထိုချိန် ခါဝယ်။ မန္တလာမြို့။ ဂုဏ်မချို့သား။ ကဲမို့သိုက်
မြိုက်။ မိုးကောင်းတိုက်မှ။ ဆဋ္ဌသင်္ဂီတိ-တစ်ဖြာ။ မဟာနာယက။ နာမ
ဂုဏ်ရှိ။ အဘိဓဇ။ မဟာရဋ္ဌ ဂုရု။ ဘိက္ခုဘဒ္ဒန္တ။ ရေဝတမထေရ်။ ကြီးမှူး
စေလျက်။ များထွေသံဃာ။ နှစ်ထောင်မှာလျှင်။ ငါးရာတိတိ။ စည်းဝေး
ဘိ၍။ ပါဠိ,ပိဋကတ်။ ရွတ် ဖတ်ပူဇာ။ နှစ်နှစ်ကြာခဲ့။ ခြောက်ဖြာ
သတ်မှတ်။ ဆဋ္ဌသင်္ဂါယနာ။ တင် ကြပါသည်။ ။ မဟာပါသာဏ
လိုဏ်ဂူတွင်တည့်လေ။ ။ သူကောင်း ဖော်ရွေ မင်းချင်းတို့။ ။

၁၈. ၇. ၂၀၁၃

ဤကား အိန္ဒိယ၊ သီဟိုဠ်၊ ရခိုင်၊ မြန်မာ စသော နိုင်ငံဒေသအသီးသီးတို့၌ သင်္ဂါယနာတင်ခဲ့ကြပုံ သမိုင်းမှတ်တမ်း အကျဉ်းမျှပင်ဖြစ်ပါသည်။ သင်္ဂါယနာတင်သမိုင်းကြောင်းကို ဖော်ထုတ်၍မှတ်တမ်းတင်ရာ၌ ရခိုင်ပြည်၊ ဝေသာလီခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်းလက်ထက်၊ သာသနာတော်သက္ကရာဇ်-၁၁၇၉-မှ-၁၁၈၂-ထိ (ခရစ်အေဒီ-၆၃၅-မှ-၆၃၈-ထိ) သုံးနှစ်တိုင်တိုင် **“ရခိုင်နှင့်သီဟိုဠ် ရဟန်းသံဃာတော်များ-ပဌမသင်္ဂါယနာတင်ခဲ့ကြသည့်”** သမိုင်းဆိုင်ရာဖြစ်ရပ်ကို ချန်လှပ်ထား၍ ပြည့်စုံမည်မဟုတ်ပါ။

အောင်မြေသာစည်

နိဂုံးချုပ်အနေဖြင့်ဆိုရသော် တိုင်းတစ်ပါး၏စစ်မက်ကျူးကျော်မှု အန္တရာယ်ကြောင့် **"ရခိုင်လူမျိုးတို့၏ ဗုဒ္ဓသာသနာ့သမိုင်းပုံရိပ်"** မှာ မှုန်ဝါးဝါးအခြေသို့ ဆိုက်ခဲ့ကြရပါသည်။ မကွယ်ပျောက်ရုံလောက်သာ ကျန်ရစ်ခဲ့သော မိမိတို့၏သမိုင်းကို သူတစ်ပါးတို့ မှတ်တမ်းတင်ပေးမှုကို အားကိုးမနေကြဘဲ၊ မိမိတို့သမိုင်းကို မိမိတို့ကိုယ်တိုင် မကွယ်ပျောက်ရ လေအောင် သေသေချာချာ မှတ်တမ်းတင်ပြုစုထားရှိကြဖို့ အရေးကြီးနေ ပြီဖြစ်ကြောင်း ရေးသားတင်ပြလိုက်ရပေသည်။

**"ရခိုင်သမိုင်းကို ရခိုင်သားတို့ကိုယ်တိုင် ပြုစုကြလော့"**။

။

ဒွါရာဝတီ-အသျှင်ကုသလ
(ရခိုင်စာပေ ယဉ်ကျေးမှုနှင့် သမိုင်းသုတေသီ)
၂၅. ၆. ၂၀၁၃
၁၃၇၅-ခု၊ နယုန်လပြည့်ကျော် (၂) ရက်၊ အင်္ဂါနေ့။





# အခန်း(၄)

# နောက်ဆက်တွဲ



http://arakanindobhasa.blogspot.com/

## ပဥ္စမသင်္ဂါယနာတင်
## မေဓပညာမော်ကွန်းအားသုံးသပ်ချက်

ဝေသာလီခေတ်၊ သီရိဓမ္မဝိဇယ (သီရိစန္ဒြား) မင်း၏ ပညာရှိ အမတ်ကြီးမေဓပညာသည် **"ပဥ္စမသင်္ဂါယနာတင်မော်ကွန်း"** ကို သာသနာ သက္ကရာဇ်-၁၁၈၅-ခု၊ ရခိုင်ကောဇာ-၃-ခု၊ အေဒီ-၆၄၁-တွင် ရေးသား စပ်ဆိုခဲ့ကြောင်း သိရှိရပါသည်။ အမတ်ကြီးမေဓပညာ ရေးသားစပ်ဆိုသော မော်ကွန်းကဗျာဖြစ်ခြင်းကြောင့် **"မေဓပညာ မော်ကွန်း"** ဟူ၍ သမိုင်းတွင်ရစ်ခဲ့သည်။

မော်ကွန်းတွင်ပါဝင်သော အကြောင်းအရာများမှာ ရခိုင်ပြည်၌ သက္ကရာဇ်ဖြိုခဲ့ပုံသမိုင်းကြောင်းအပြင် ရခိုင်က ရဟန်းသံဃာတော် (=၁၅၀၀) နှင့် သီဟိုဠ်က ရဟန်းသံဃာတော် (=၅၀၀)၊ စုစုပေါင်း (၂၀၀၀) သော ရဟန္တာအသျှင်သူမြတ်တို့ ပဥ္စမသင်္ဂါယနာတင်ခဲ့ကြပုံ သမိုင်းကြောင်းတို့ကိုပါ ရေးဖွဲ့ထားသဖြင့် သမိုင်းတန်ဖိုးကြီးမားသော မော်ကွန်းကဗျာကြီးဖြစ်ပါသည်။

ရှေးက ရခိုင်လူမျိုးတို့၏ အမျိုး၊ ဘာသာ၊ သာသနာ၊ စာပေ၊

အောင်မြေသာစည်

http://arakanindobhasaa.blogspot.com/

ယဉ်ကျေးမှု အဆင့်အတန်းကို သိရှိနိုင်အောင် ကဗျာဖြင့် မှတ်တမ်းတင်ပေးခဲ့သည့် ပညာရှိအမတ်ကြီးမေဓပညာအား များစွာကျေးဇူးတင်ထိုက်ပါပေ၏။

အဆိုပါမော်ကွန်း၌ သင်္ဂါယနာတင်ခဲ့သော အချိန်ကာလ၊ တိုင်းပြည်နှင့် နေရာဒေသ၊ ပစ္စည်းလေးပါးဒါယကာ အုပ်ချုပ်သူမင်း၊ ဦးဆောင်ပါဝင်သော ရဟန္တာမထေရ်မြတ်၏ ဘွဲ့အမည်တော်နှင့် နှစ်ပြည်ထောင်ရဟန္တာအရေအတွက်တို့ကို တိတိကျကျ သိရှိရသည့်အပြင်၊ ရခိုင်မှာတင်ခဲ့သော သင်္ဂါယနာသည် သီဟိုဠ်၌ စတုတ္ထမြောက်ပေထက်အက္ခရာတင်ပြီးနောက်မှ တင်ခဲ့သော သင်္ဂါယနာဖြစ်ခြင်းကြောင့် **“ပဉ္စမသင်္ဂါယနာ”** ဟူ၍လည်း သိရှိရပြန်ပါသည်။

သင်္ဂါယနာတင်ရာတွင် ပိဋကတ်သုံးပုံနှင့်တကွ အဋ္ဌကထာကျမ်းဂန်များကို **“သီဟိုဠ်မူ”** အတိုင်း တစ်မျဉ်းမချွတ်တင်ခဲ့ကြကြောင်း၊ သင်္ဂါယနာတင်သော ပစ္စည်းမှာ ကြေးနီ၊ ကြေးဝါ စသော ကြေးပြားချပ်ရေ (၅၀၀၀) ရှိကြောင်း၊ အချိန်ကာလမှာ သုံးနှစ်တိတိကြာမြင့်ခဲ့ကြောင်း စုံစုံလင်လင် ရေးဖွဲ့ထားသည်ကို တွေ့ရပါသည်။

အဆိုပါ မော်ကွန်းကဗျာကြီးသည် ရခိုင်ယဉ်ကျေးမှုသမိုင်းကို ဖော်ထုတ်ရာ၌ များစွာအထောက်အကူပြုနိုင်သည့်အပြင် အတိတ်က ရခိုင်လူမျိုးတို့၏ အတွေးအခေါ်၊ အယူအဆ၊ အသိအမြင် စသော ယဉ်ကျေးမှုသမိုင်းပုံရိပ်များကိုလည်း ထင်ဟပ်ပေါ်လွင်စေပါတော့သည်။

အမတ်ကြီးမေဓပညာရေးဖွဲ့ခဲ့သော **“မော်ကွန်းစာ”** မှာ မူနှစ်မူကွဲပြားလျက် ရှိနေသည်ကို တွေ့ရသည်။ ခေတ်အဆက်ဆက် ရေးကူးလာခဲ့ကြရသဖြင့် အနည်းငယ် ကွဲလွဲသွားခြင်းလည်း ဖြစ်နိုင်ပါသည်။





အဆိုပါ **“မော်ကွန်းစာ”** ကို **“ဆေးဆရာ-ဦးငမဲ”** သည် ရခိုင်ကောဇာ-၁၂၆၁-ခု၊ (အေဒီ-၁၈၈၉) က ပေမူမှတစ်ဆင့် ကူးယူထားခဲ့သော မူဖြစ်ပါသည်။ ထိုမူကို မင်းပြားမြို့၊ ဇေယျသုခစာသင်တိုက်၊ စာချမဟာစရိယ **“အသျှင်မဏ္ဍက”** က ရှာဖွေတွေ့ရှိခဲ့ပါသည်။ ထိုမော်ကွန်းစာကို မူအားဖြင့် “ဆေးဆရာ-ဦးငမဲမူ” ဟုခေါ်ပါမည်။

မူနှစ်မူဖြစ်နေခြင်းကြောင့် ပြည့်စုံစွာ ဖော်ပြပါရှိသော မူကို ဆေးဆရာ-ဦးငမဲမူ (၁) ဟူ၍လည်းကောင်း၊ ပြည့်စုံစွာ ဖော်ပြပါရှိမှုအားနည်းနေသော မူကို ဆေးဆရာ-ဦးငမဲမူ (၂) ဟူ၍လည်းကောင်း ယာယီအားဖြင့် အမည်ပေးထားပါသည်။ ကွဲလွဲနေသော အချက်များကို နှိုင်းယှဉ်ကြည့်နိုင်ရန် မူနှစ်မူစလုံးကို နောက်ဆက်တွဲအနေဖြင့် ဖော်ပြပေးလိုက်ရပေသည်။ **“မေဓပညာမော်ကွန်း”** ကို **“ပညာမေဓာမော်ကွန်း”** ဟူ၍လည်း ခေါ်တွင်ခဲ့ကြောင်း သိရှိရပါသည်။



## "ပဉ္စမသင်္ဂါယနာတင်၊ မေဓပညာမော်ကွန်း"

* သုဘူပရံ၊ သုလောကိတံ၊ သုမင်္ဂလံ၊ သမိဒ္ဓတု။ ။

ကမ္ဘာစဉ်လာ၊ ဓမ္မတာဖြင့်၊ ဝိဒ္ဓါသမုတ်၊ စတုယုဂ်ကိန်း၊ လေးသိန်းသုံးသောင်း၊ နှစ်ထောင်ဆောင်းသား၊ နှစ်ပေါင်းကိုချုပ်၊ ကလိယုဂ်တည့်၊ ထိုယုဂ်နှစ်ပြန်၊ ဒွါပရန်ဟု၊ သုံးပြန်တြေတာ၊ လေးဖြာကတ၊ ပေါင်းကြလေးထပ်၊ ရှီးအပ်သိမှူ၊ အ,အာ,ဉ,ဤ၊ ရာသီဘြူ၊ ဂဏန်းစုဖြစ်၊ ထိုနှစ်အပေါင်း၊ ခေတ်ပြောင်းပြန်လှန်၊ ကပ်ဆိုးလွန်အောင်၊ လူ့ဘောင်ပွားဆုတ်၊ လေးပါးယုဂ်တွင်၊ အယင်ကတ၊ ဓမ္မဥစ္စာ၊ ပြည့်လှာဥသုံ၊ ကောင်းကိန်းကြုံ၏၊ သုံးပုံတြေတာ၊ ယုဂ်မှာတစ်စု၊ ကောင်းစုသုံးမှာ၊ ဒွါပရာစက်၊ တစ်ဝက်ကောင်းဆိုး၊ တစ်မျိုးကလိ၊ အသိဧကေ၊ သုံးဆချွတ်ယွင်း၊ တရားကင်း၏၊ ယင်းကလိသက်၊ ထိုနှစ်ထက်မှာ၊ သိက္ခာ,သိက္ခ၊ ဂဏန်းချခါ၊ ရာသက်ကာလ၊ ဟာယနမှီ၊ သာကီသကျ၊ ဂေါတမဟု၊ လောကလူ့ရွာ၊ ဖြစ်ပွင့်လာ၍၊ ဒေဝါ,မနု၊ ကျွတ်မှုဟောကြား၊ လေးဆယ့်ငါးဝါ၊ ရောက်ရေခါကား၊ သြဆာသာရ၊ သာခပုဏ္ဏမီ၊ ငြိမ်းလီနိဗ္ဗာန်၊ ထားပြန်သာသနာ၊ ကောဇာဖြိုရှု၊ မာတုဋ္ဌိကာ၊ ရောက်ခါပေါင်းကြ၊ နဝတြိ၊ သတ္တဂ္ဂိရ၊ ဂေါတမ





ပူရာဏ်၊ ကျမ်းညွှန်အလာ၊ ရက္ခာပူရ၊ ဓညသခင်၊ ဘုရင်ရာဇာ၊ ရာလမာယု၊ မင်းဟုသမိုက်၊ ဘိသိက်ကြိုက်ခါ၊ ဂေါဇာဘိန္န၊ သာဓကကျမ်း၊ ကိန်းခန်းအရ၊ မိ-ဘ-စံ-ဇီ၊ ဖြိုလီကြွင်းနှစ်၊ သက္ကရာဇ်မဟာ၊ တစ်ရာသုံးခု၊ ပွင့်မှုတွိကြုံ၊ ကဆုန်ပုဏ္ဏ၊ ဂေါတမဟု၊ ဗုဒ္ဓတံထွာ၊ မသီရာကို၊ လွယ်စွာရလိမ့်၊ သနားဖိန့်ဖိန့်၊ ဟောမိန့်ညွှန်ကြား၊ လေးဆယ်ငါးလျှင်၊ ရောက်ငြားဝါရှယ်၊ ရာလေးဆယ်ရှစ်၊ ဘိုးတော်ချစ်၏၊ ပြည့်သစ်ကဆုန်၊ အင်္ဂါကြုံနို၊ သုံးဘုံဆွိဆွိ၊ တုန်ခွိခွိလျှင်၊ မရွှိနိဗ္ဗူ၊ စံတော်မူဘိ၊ ပြည်သူသက်နှင်း၊ မင်းမင်းစဉ်လျှောက်၊ ငါးဆက်မြောက်ကျ၊ စန္ဒသူရိယာ၊ ဇီဝကာကိန်း၊ ဖြိုသိမ်းပြီးမှ၊ တစ်ကစလစ်၊ သက္ကရာဇ်ပါ၊ သာသနာနှစ်၊ ပွားသစ်အညီ၊ ယှဉ်မှီမြောက်တက်၊ ဆယ့်ခြောက်ဆက်မှာ၊ သူရိယာစိတြ၊ ဓနဥ္စကိန်း၊ ဖြိုသိမ်းပြီးထ၊ ခတ္တိယန္ဒယ်၊ သုံးဆယ်နှစ်ဆက်၊ ဆင်းသက်ရောက်ပြန်၊ သီရိစန္ဒြ၊ ဥတ္တမကိန်း၊ ဖြိုသိမ်းပေါင်းပြု၊ မာတုဋ္ဌိကာ၊ ကောဇာဂုဏ၊ ရောက်ထမှန်စွာ၊ သာသနာနှစ်၊ အတိတ်ဖြစ်၏၊ ထိုနှစ်မှာပင်၊ စိတြပုဏ္ဏိ၊ ပါဋိပဒ၊ ဆုတ်စတစ်ရက်၊ ယင်းနိထက်တွင်၊ မြသွင်မှိုင်းအိ၊ တန်ခိုးဟိသည်၊ ဘူမိရှိတောင်၊ ဗွီထိပ်ခေါင်ကို၊ ညီအောင်ပြုလျက်၊ လေးဘက်ညီညာ၊ တစ်မျက်နှာလျှင်၊ ဝိဟာယှဉ်မှီ၊ ငါးဆောင်စီတည်း၊ မျှညီစမွာယ်၊ ငါးဆယ်သံဃာ၊ တစ်မျက်နှာလျှင်၊ နှစ်ရာငါးဆယ်၊ လေးသွယ်အရိယာ၊ ထေရ်သံဃာတို့၊ နှစ်ဖြာစူရ၊ သီဟဠမှ၊ သတငါးလီ၊ ကြွချီဖြည့်တင်း၊ တိုင်းရင်းဓည၊ တို့ပြည်မမှ၊ စူရငါးရာ၊ ကျော်လာတစ်ထောင်၊ ပင့်ဆောင်ကျွေးမွိုး၊ လျှုပီးပွဲကြီး၊ ပွဲတင်ဟည်းမျှ၊ အံ့ချီးထိုခါ၊ ကျင်းပရာတွင်၊ လယ်ချာထူးဆန်း၊ နတ်နန်းတူလျှောင်း၊ ရှီးကျောင်းဗိမာန်၊ ဝေဇယန်မှ၊ ဓမ္မရတနာ၊ ညီလာခံမှူ၊ ပြုကြစေရာ၊ သံဃာနှစ်ထောင်၊ ဦးဆောင်ပုဗ္ဗင်၊ သခင်စူဠ၊ ရေဝ

ထေရ်လျှင်၊ ကြီးမှူးတင်၍၊ သဘင်ဓမ္မ၊ သင်္ဂါယနာ၊ တင်ပြုရာတွင်၊ စစ္စာ
ပဥ္စ၊ ဝိနယ၌၊ နှစ်ရာငါးဆယ်၊ နိကာယ်ပဥ္စ၊ သုတ္တန္တဟု၊ ဧကေတာလီ၊ ကျမ်း
ဂမ္ဘီ၌၊ ယှဉ်မှီကိုးရာ၊ တစ်ဆယ်လာ၏၊ ခုဒ္ဒကာမည်ရ၊ သတ္တဝေဖြာ၊ ဘိဓမ္မာ
၌၊ ရှစ်ရာလေးဆယ်၊ သုံးသွယ်ပိဋကတ်၊ ပါဠိမြွတ်၌၊ ရှီးမှတ်ကြီးပြား၊
နှစ်ထောင်အားဖြင့်၊ ပြီးငြားသီချာ၊ တစ်နှစ်ကြာခဲ့၊ တစ်ဖြာဖွင့်ပြ၊ အဋ္ဌ
ကထာ၊ ဝိနယာ၌၊ ခုနစ်ရာငါးဆယ်၊ နိကာယ်ပဥ္စ၊ သုတ္တန္တမှာ၊ ထောင့်
ငါးရာတည်း၊ ဓမ္မာတိရေကာ၊ ဘိဓမ္မာ၌၊ ခြောက်ရာကိုးဆယ်၊ ဓိပ္ပာယ်
ပေါင်းရုံး၊ ကျဉ်းချုံးဖွင့်ဟိ၊ ဝိသုဒ္ဓိမဂ်၊ ရေတွက်တာလီသ၊ ဒွိယနိဿယာ၊
ကင်္ခါဝိတရဏီ၊ ကြီးနီချပ်ပြား၊ နှစ်ဆယ်အားဖြင့်၊ ငါးပါးနိကာယ၊ အဋ္ဌ
ကထာ၊ နှစ်နှစ်ကြာခဲ့၊ စဉ်လာပွားသက်၊ ဓမ္မစက်လျှင်၊ ရှည်ဆက်တည်မှု၊
မျှော်ထောက်ရှု၍၊ ပ-ဒု-နောက်မှ၊ တတိယဟု၊ ဓမ္မသဘင်၊ သင်္ဂါယနာ၊
တင်ရာဓိပတိ၊ မောဂ္ဂလိပုတ္တ၊ တိဿထေရ်ကျော်၊ အမိန့်တော်ဖြင့်၊ ထင်
ပေါ်ပြည်မ၊ မဟိံသဟု၊ မည်ရသမိုင်း၊ ရခိုင်တိုင်းသို့၊ စီခိုင်းကြွလာ၊ မဟာ
ရေဝ၊ ထေရငါးဖြာ၊ ရဟန္တာတို့၊ သူရိယာစက္က၊ တို့ရာဇအား၊ ဒေဝဒူတန်၊
နတ်တမန်ဖြင့်၊ ဟောညွှန်သွန်းလောင်း၊ လေးသောင်းအရိယာ၊ ဓမ္မာစက္ခု၊
ရမှုလူပေါင်း၊ လေးသောင်းရဟန်း၊ ကျွတ်တမ်းဆိုက်ရ၊ မြတ်ဗုဒ္ဓ၏၊ ဓမ္မ
စက်နွယ်၊ ဆက်သွယ်ပွားလျောက်၊ ထပ်ဆင့်လျောက်၍၊ ထွန်းတောက်
ထိန်ထိန်၊ နောက်နောင်ချိန်လည်း၊ မမှိန်သမိုင်း၊ ရှိခိုင်တိုင်းဝယ်၊ ပြန့်လှိုင်း
ရောင်စွယ်၊ ဇမ္ဗူလယ်၌၊ ဖြန့်ကျယ်ဆင့်ဆင့်၊ နှံ့သွယ်လင့်ဟု၊ အသင့်လျော်
စွာ၊ ဆောင်တည်ကာဖြင့်၊ မဟာမဟိန္ဒ၊ ထေရဘုန်းစည်၊ ဖြန့်တည်နွယ်စင်၊
သီဟိုဠ်ခွင်၌၊ နောင်တွင်ဆောင်ရွက်၊ လွန်ခဲခက်၍၊ ပေထက်အက္ခရာ၊
သင်္ဂါယနာ၊ စတုတ္ထမြောက်၊ တင်ပြီးနောက်မှ၊ တိမ်းမှောက်ညစ်ညျူး၊ ဝါဒ





ထူးဖြင့်၊ ကူးလူးမယှဉ်၊ အစဉ်တည်တံ့၊ အရှည်ခံ့ဟု၊ ကူပံ့ဖြန့်ဖြူး၊ မြတ်
ကျေးဇူးဟိ၊ ရဘိရည်ညွှတ်၊ လွတ်လွတ်ပြုထ၊ သီဟဠနှင့်၊ ဝါဒတူဆီ၊ တို့
သင်္ဂီအား၊ ပဥ္စမီထပ်၊ ကြီးနီချပ်လျှင်၊ ရှိကွပ်တင့်သား၊ ငါးထောင်အားဖြင့်၊
ရှီးထားသီချာ၊ သုံးနှစ်ကြာလျှင်၊ ကောင်းစွာသီးသီး၊ အောင်မြင်ပြီး၍၊
လူထီးခွန်ဆီ၊ စိုးမိုးချီသ၊ သိရိစန္ဒြာ၊ တို့ရာဇာကား၊ ပြည်ရွာခွန်ဆက်၊ လျှော့
တန်တစ်ဝက်၊ ရန်မျက်ခပ်သိမ်း၊ ငြိမ်းစီကြောင်းပြု၊ ကောင်းမှုပြည့်ဖြိုး၊
စေတီမျိုးနှင့်၊ ပုထိုးဆင်းတု၊ မျက်ရှုကြည်လင်၊ ဖြူစင်မနော၊ ပြန့်ပြော
စဖွယ်၊ ဂူကျောင်းဆွယ်လျက်၊ သွားလွယ်တံတား၊ ရီထားကန်တူး၊ မြောင်း
ဆည်ထူးဖြင့်၊ ဆည်းပူးမယုတ်၊ ကြိုးကုတ်ဒါန၊ သီလတစ်ဖြာ၊ ဘာဝနာ
တစ်ရပ်၊ ဝိပဿနာ၊ ပွားကာထိန်းချုပ်၊ လောကုတ်မဂ္ဂင်၊ ထုံမွှန်းတင်
သည်။ ။ ဖိုလ်ဝင်နိဗ္ဗူရောက်ကြောင်းတည်း။ ။

အမတ်ကြီး-မေဓပညာ

(အေဒီ-၇-ရာစု)

* ဆေးဆရာ-ဦးငမဲမူ (၁)

## "မေဓပညာမော်ကွန်း"(မှုကွဲ)

* ကမ္ဘာစဉ်လာ၊ ဓမ္မတာဖြင့်၊ ဝိဒ္ဒါသမုတ်၊ စတုယုဂ်ကိန်း၊ လေးသိန်းသုံးသောင်း၊ နှစ်ထောင်ဆောင်းအယ့်၊ နှစ်ပေါင်းကိုချုပ်၊ ကလိယုဂ်တည့်၊ ထိုယုဂ်နှစ်ပြန်၊ ဒွါပရန်ဟု၊ သုံးပြန်တြေတာ၊ လေးဖြာကတ၊ ပေါင်းကြလေးထပ်၊ ရှီးအပ်သိမှု၊ အအဥအီ၊ ရာဂီဘြူ၊ ဂဏန်းစုဖြစ်၊ ထိုနှစ်အပေါင်း၊ ခေါက်ပြောင်းပြန်လှန်၊ ကပ်ဆုံးလွန်အောင်၊ လူ့ဘောင်ပွားဆုတ်၊ လေးပါးယုဂ်တွင်၊ အယင်ကတ၊ ဓမ္မသစ္စာ၊ ပြည့်လာဥသုံ၊ ကောင်းကိန်းကြုံအယ့်၊ သုံးပုံတြေတာ၊ ယုတ်မှာတစ်ခု၊ ကောင်းမှုသုံးဖြာ၊ ဒွါပရာစက်၊ တစ်ဝက်ကောင်းဆိုး၊ တစ်မျိုးကလိ၊ အသိဇော၊ သုံးဝချွတ်ယွင်း၊ တရားကင်းအယ့်၊ ယင်းကလိသက်၊ ထိုနှစ်ထက်မှာ၊ ဝိက္ခာ ဝိက္ခ၊ ဂဏန်းကျခါ၊ ရာသက်ကာလ၊ ဟာယနမှီ၊ သာကီသကျ၊ ဂေါတမဟု၊ လောကလူ့ရွာ၊ ဖြစ်ပွင့်လာရှယ့်၊ ဒေဝါမနု၊ ကျွတ်မှုဟောကြား၊ လေးဆယ့်ငါးဝါ၊ ပြည့်ရေခါကား၊ ဩဆာဝ့ါရ၊ သာခပုဏ္ဏမီ၊ ငြိမ်းလီနိဗ္ဗာန်၊ ထားပြန်သာသနာ၊ ဂေါစာဖြိုရှူ၊ ဓာတုဋ္ဌီကာ၊ ရောက်ခါပေါင်းကြ၊ နဝတြိ၊ သတ္တဂ္ဂိရ၊ ဂေါတမပူရာဏ်၊ ကျမ်းညွှန်အလာ၊ ရက္ခာပူရ၊ ဓညသခင်၊ ဘုရင်ရာဇာ၊ ရာလမာယု၊





မင်းဟုသမိုက်၊ ဘိသိကြိုက်ခါ၊ ဂေါစာဘိန္န၊ သာဓကေကျမ်း၊ ကိန်းခန်းအရမိဘစံဇီ၊ ဖြိုလီကြွင်းနှစ်၊ သကြစ်မဟာ၊ တရာသုံးခု၊ ပွင့်မှုတွိကြုံ၊ ကဆုန်ပုဏ္ဏ၊ ဂေါတမဟု၊ ဗုဒ္ဓတံထွာ၊ ဖြစ်လာဟောကြား၊ လေးဆယ့်ငါးဝါ၊ ရောက်တေခါကား၊ ရာလေးဆယ့်ယှစ်၊ ပြည့်ခိုက်ကဆုန်၊ နိကြုံအင်္ဂါ၊ နိဗ္ဗူတာသို့၊ မှန်စွာရောက်ဘိ၊ ခတ္တိငါးဆက်၊ မပျက်စဉ်လာ၊ စန္ဒာသူရိယ၊ ဇီဝကကိန်း၊ ဖြိုသိမ်းပြီးမှ၊ တစ်ကစလိုက်၊ သကြစ်လာ၊ သာသနာနှစ်၊ စဉ်လိုက်မပျက်၊ ဆယ့်ခြောက်ဆက်ခါ၊ သူရိယာစိတြ၊ ဓနဥ္စကိန်း၊ မယိမ်းဖြိုလေ၊ သုံးဆယ်နှစ်ဆက်၊ မပျက်ရောက်ဘိ၊ သီရိစန္ဒြ၊ ဥတ္တမကိန်း၊ ဖြိုသိမ်းပေါင်းပြုဓာတုဋ္ဌီကာ၊ ဂေါစာပဏ္ဍော၊ ရောက်ကေမှန်စွာ၊ သာသနာနှစ်၊ အတိတ်ဖြစ်ခါ၊ ထိုနှစ်မှာပင်၊ စိတြာပုဏ္ဏ၊ ပဋ္ဌိပဒ၊ ဆုတ်စတစ်ရက်၊ ယင်းနိထက်တွင်၊ မြသွင်းမှိုင်းအိ၊ တန်ခိုးဟိသည်၊ ဘုမ္မိရှိတောင်၊ ဗွီထက်ခေါင်ကို၊ ညီအောင်ပြုကာ၊ ဝိဟာတစ်မျက်၊ လေးဘက်အညီ၊ ငါးဆောင်စီဖြစ်၊ တစ်ကျောင်းနှိုက်ဝယ်၊ ငါးဆယ်သံဃာ၊ တစ်မျက်နှာဟု၊ နှစ်ရာ့ငါးဆယ်၊ လေးသွယ်ရဟန်း၊ သီဟိုဠ်ကျွန်းက၊ ဓူရနှစ်ဖြာ၊ ငါးရာစီမျှ၊ ရှိ့ပြည်မမှဓူရတစ်ထောင်၊ ပင့်ဆောင်ကျွေးမွေး၊ လျှုပွဲကျင်းပ၊ လယ်ကထူးဆန်း၊ နတ်နန်းတမျှ၊ တူစွရှိကျောင်း၊ အပေါင်းများစွာ၊ သံဃာနှစ်ထောင်၊ ပင့်ဆောင်ပြီးမှ၊ စူလရေဝ၊ နာယကကား၊ ဓမ္မသဘင်၊ သင်္ဂါယနာ၊ တင်ရာအစ၊ ပဥ္စဝိနယာ၊ နှစ်ရာငါးဆယ်၊ သုတ္တံကျယ်ဘိ၊ နာဝိဇော၊ ကိုးရာဆယ်တိ၊ အဘိဓမ္မာ၊ ကျမ်းလာသတ္တ၊ ယှစ်ရာ့လေးဆယ်၊ ဗုဒ္ဓေဟောဟိ၊ ပါဠိနယတာမြပတ္တာ၊ ကြီးဝါချပ်ပြား၊ နှစ်ထောင်အားဖြင့်၊ ရှီးထားသေချာ၊ တစ်နှစ်ကြာအယ့်၊ တစ်ဖြာဖွင့်ပြ၊ အဋ္ဌကထာ၊ ဝိနယာမှာ၊ ခုနစ်ရာငါးဆယ်၊ သုတ်ဝယ်အလာ၊ ထောင့်ငါးရာတည့်၊ အဘိဓမ္မာ၊ ခြောက်ရာကိုးဆယ်၊

မိပ္ပာယ်ပေါင်းစုံ၊ အကုန်ဖော်ဟိ၊ ဝိသုဒ္ဓိမဂ်၊ သျှင်ပျက်မရာ၊ လိဋ္ဌိမှာနှိုက်၊ ချပ်ဖြစ်လေးဆယ်၊ ဒွယေနိစ္ဆယ၊ ကင်္ခဝိတရဏီ၊ ချပ်ရှိလေးဆယ်၊ နိကာယ်ငါးဝ၊ အဋ္ဌကထာ၊ နှစ်နှစ်ကြာပြု၊ ပ-ဒု-တမှိ၊ စတုတ္ထိကျ၊ မဟိံသဟုမည်ရသမိုင်း၊ ရခိုင်တိုင်းသို့၊ စီယ်ခိုင်းလီဘိ၊ မောဂ္ဂလိပုတ္တ၊ တိဿထေရ်သျှင်၊ သိခင်ရေဝ၊ ထေရင်ါးဖြာ၊ ရဟန္တာရို့၊ ကြွလာထိုခါ၊ သူရိယာစက္ကရို့ရာဇအား၊ ဟောကြားဒေသနာ၊ ဒေဝါဒူတ၊ သုတ္တံအဆုံး၊ လေးသောင်းလုံးမှာ၊ ဓမ္မာစက္ခု၊ ရမ္မဟိကြောင်း၊ လေးသောင်းရဟန်း၊ ကျွတ်တမ်းဝင်ကြ၊ ထိုကစရှယ့်၊ သာသနာ့ဝန်ထမ်း၊ ရဟန်းသံဃာ၊ စဉ်လာပွားထ၊ သီဟဠနယ့်၊ ဝါဒတူဘိ၊ ဂုဏ်သင်္ဂီမှာ၊ ပတ္တာပဥ္စမီ၊ ကြီးရှိချပ်ပြား၊ ငါးထောင်အားဖြင့်၊ ရှီးထားသေချာ၊ သုံးနှစ်ကြာလျှင်၊ အောင်မြင်ပြီးစီး၊ သိရိစန္ဒြား၊ ရို့မင်းဖျားကား၊ ရုပ်ပွားပုထိုး၊ စေတီမျိုးနယ့်၊ နောက်တိုးကန်တူး၊ ကောင်းမှုုဖြာဖြာ၊ ပြည်ရွာခွန်ဘဏ်၊ ယွှပြန်တစ်ဝက်၊ ရန်မျက်ကင်းငြိမ်း၊ မယိမ်းမယုတ်၊ ကြိုးကုတ်ဒါန၊ သီလတစ်ဖြာ၊ ဘာဝနာတစ်ရပ်၊ ဝိပဿနာ၊ များစွာအားထုတ်၊ လောကုတ်သဘင်၊ မဂ်ပွဲယင်သည်။ ။ ဖိုလ်ဝင်နိဗ္ဗာန်ရောက်ကြောင်းတည်း။ ။

အမတ်ကြီး-မေဓပညာ
(အေဒီ-၇-ရာစု)

* ဆေးဆရာ-ဦးငမဲမူ (၂)



## ကိုးတိုင်းကိုးဌာနမှတ်ဖွယ်

သာသနာတော်သက္ကရာဇ်-၂၃၅-ခု၊ ဘီစီ-၃၀၉ အရောက်တွင် **"အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်"** အမှူးပြုသော ရဟန္တာမထေရ် (၁၀၀၀) တို့သည် မဇ္ဈိမဒေသ၊ ပါဋ္ဌလိပုတ်ပြည်၊ သီရိဓမ္မာသောကမင်း ကြီးကို အမှီပြု၍ အသောကာရုံကျောင်းတော်ကြီး၌ (၉) လပတ်လုံး **"မုခါရုဠ-တတိယသင်္ဂါယနာ"** တင်တော်မူခဲ့ကြပါသည်။

ယင်းတတိယသင်္ဂါယနာတင်ပွဲအပြီးတွင် အသျှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် ရဟန္တာမထေရ်မြတ်တို့အား ကိုးတိုင်းကိုးဌာနသို့ သာသနာပြုရန် စေလွှတ်တော်မူခဲ့ပါသည်။ **"မဟိံသကမဏ္ဍလတိုင်း"** ဟုအမည်ရသော ရခိုင်ပြည်သို့ စေလွှတ်တော်မူရာ၌ ပဉ္စဝဂ်သံဃာတော်တို့၏ ဦးဆောင်ပုဂ္ဂိုလ်ဖြစ်သော **"အသျှင်မဟာရေဝမထေရ်"** ကို "တွံ၊ သင်သည်။ မဟိံသကမဏ္ဍလံ၊ မဟိံသကမဏ္ဍလတိုင်းသို့။ ဂန္တွာ၊ သွား၍။ ဧတ္ထ ဧတသ္မိံ မဟိံသကမဏ္ဍလေ၊ ဤမဟိံသကမဏ္ဍလ အမည်ရသောတိုင်း၌။ သာသနံ၊ သာသနာတော်ကို (ဝါ) သာသနာတော်သုံးရပ်ကို။

ပတိဋ္ဌာပေဟိ၊ တည်စေလော့။" ဤသို့ပြောဆို၍ စေလွှတ်တော်မူခဲ့ခြင်း ဖြစ်ပါသည်။

သာသနာတော်သက္ကရာဇ်-၂၃၆-ခု၊ ဘီစီ-၃ဝ၈-တွင် ကိုးတိုင်းကိုးဌာန၏ တစ်တိုင်းအပါအဝင်ဖြစ်သော **"မဟိံသကမဏ္ဍလတိုင်း"** ဟုအမည်ရသော **"ရခိုင်ပြည်"** သို့ **"အသျှင်မဟာရေဝမထေရ်"** ဦးဆောင်သော ပဉ္စဝဂ်ရဟန္တာမထေရ်ငါးပါး ကြွရောက်တော်မူလာခဲ့ကြပါသည်။

သာသနာပြု ရဟန္တာအသျှင်မြတ်များ မကြွရောက်မီ နှစ်ပေါင်း-၂၆၁-နှစ်စော၍ ဗုဒ္ဓကိုယ်တိုင် ရခိုင်ပြည်သို့ နောက်ပါရဟန္တာ (၅ဝဝ) ခြံရံလျက် ကြွရောက်တော်မူခဲ့ပြီး ဖြစ်ပါသည်။ ယင်းအချိန်သည်ကား မဟာသက္ကရာဇ်-၁၂၃-ခု၊ (ဘီစီ-၅၆၉) က ဖြစ်၏။

ပဉ္စဝဂ်သံဃာ ရဟန္တာအသျှင်မြတ်တို့အား ဒေသအလိုက် သာသနာပြုကြွရောက်တော်မူရန် ကိုးတိုင်းကိုးဌာနသို့ စေလွှတ်တော်မူခဲ့ပုံမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(၁) မဇ္ဈန္တိကမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို ကသ္မီရဂန္ဓာရတိုင်းသို့ စေလွှတ်တော်မူခဲ့ပါသည်။

(၂) မဟာရေဝမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို မဟိံသကမဏ္ဍလတိုင်း(ရခိုင်)သို့ စေလွှတ်တော်မူခဲ့ပါသည်။

(၃) ရက္ခိတမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို ဝနဝါသီတိုင်းသို့ စေလွှတ်တော်မူခဲ့ပါသည်။

(၄) ယောနက ဓမ္မရက္ခိတမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို အပရန္တတိုင်းသို့ စေလွှတ်တော်မူခဲ့ပါသည်။





(၅) မဟာဓမ္မရက္ခိတမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို မဟာရဋ္ဌတိုင်းသို့ စေလွှတ်တော်မူခဲ့ပါသည်။

(၆) မဟာရက္ခိတမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို ယောနကလောကအရပ်သို့ စေလွှတ်တော်မူခဲ့ပါသည်။

(၇) မဇ္ဈိမ,မထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို ဟိမဝန္တာဒေသ (စိနရဋ္ဌတိုင်း) သို့ စေလွှတ်တော်မူခဲ့ပါသည်။

(၈) သောဏမထေရ်နှင့် ဥတ္တရမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို သုဝဏ္ဏဘူမိသို့ စေလွှတ်တော်မူခဲ့ပါသည်။

(၉) မဟိန္ဒမထေရ် အမှူးပြုသော ပဉ္စဝဂ်သံဃာတော်တို့ကို တမ္ဗပဏ္ဏိဒီပ (သီဟိုဠ်ကျွန်း) သို့ စေလွှတ်တော်မူခဲ့ပါသည်။

(ပါရာဇိက,ကဏ္ဍ၊ ၌၊ ၁၊ စာ-၄၈)

## ဆရာတော်ဘဒ္ဒန္တကုသလ
## (ဒွါရာဝတီ–အသျှင်ကုသလ (ငွေသဖင်) ၏ ထေရုပ္ပတ္တိအကျဉ်း)

ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ရွှေလှေရွာ၌ ခမည်းတော်ဦးသိန်းမြင့်+မယ်တော်ဒေါ်မြတင်တို့မှ ၁၃. ၂. ၁၉၆၁ ခုနှစ်၊ တနင်္လာနေ့၊ ည (၁၀) နာရီအချိန်တွင် ဖွားမြင်သည်။ မွေးချင်းငါးယောက်အနက် အငယ်ဆုံးဖြစ်ပြီး ငယ်နာမည်မှာ **'မောင်ကျော်ရှိန်'** ဖြစ်သည်။ ၁၉၆၇ ခုနှစ်မှစ၍ ပန်းချီရေးဆွဲခြင်း၌ အလွန်ဝါသနာကြီးခဲ့သည်။ ၁၉၇၀ ခုနှစ်တွင် ရှင်သာမဏေ ဝတ်သည်။ ၁၉၇၆ ခုနှစ်မှစ၍ ကဗျာများကို ရေးသားစပ်ဆိုခဲ့သည်။

သံတွဲမြို့နယ်၊ ရွှေလှေရွာ၊ ဇီးကျွန်းရွာ၊ ရန်ကုန်မြို့၊ မန္တလေးမြို့တို့၌ လောကီနှင့် လောကုတ္တရာစာပေများကို သင်ယူဆည်းပူးခဲ့သည်။ ၁၉၈၂ ခုနှစ်တွင် အစိုးရပထမကြီးတန်းကို အောင်မြင်သည်။ ပညာရေးကို ဓမ္မာစရိယတန်းအထိ သင်ယူဆည်းပူးခဲ့သည်။ ၂၀. ၅. ၁၉၈၂ ခုနှစ်တွင် ရဟန်းဘောင်တက်ရောက်သည်။

၁၉၈၄ ခုနှစ်၊ စက်တင်ဘာလထုတ် ငွေတာရီမဂ္ဂဇင်းတွင် **'ရင်းမာလှိုင်သင်း တော်သလင်း'** ဆောင်းပါး၊ ၁၉၈၅-၈၆ ခုနှစ်ထုတ်





စစ်တွေဒီဂရီကောလိပ်မဂ္ဂဇင်းတွင် **'အောင်ပွဲပန်း'** ကဗျာတို့ဖြင့် စာပေနယ်သို့ စတင်ဝင်ရောက်ခဲ့သည်။

သံတွဲမြို့နယ်၊ သူငွေးချောင်း၊ မန်ကျည်းချောင်ရွာ၊ **'ဝိဇယရံသီကျောင်း'** ၌ ၁၉၈၇ ခုနှစ်မှ ၁၉၉၀ ခုနှစ်အထိ လေးနှစ်တိုင်တိုင် သာသနာပြုလုပ်ငန်းများကို ဆောင်ရွက်ရင်း သာမဏေနှင့် ကျောင်းသားတို့အား စာပေသင်ကြားပို့ချခဲ့ပါသည်။ ၃၁. ၅. ၁၉၉၁ ခုနှစ်တွင် သံတွဲမြို့၊ **'မြို့မဝေဠုဝန်ကျောင်းတိုက်'** ကို စာသင်တိုက်အဖြစ် ဖွင့်လှစ်၍ စာသင်သားရဟန်း၊ သာမဏေတို့အား သုံးနှစ်တိုင်တိုင် စာပေသင်ကြားပို့ချခဲ့ပါသည်။

၁၆. ၇. ၁၉၉၄ ခုနှစ်တွင် သံတွဲမြို့၊ ဒွါရာဝတီမြို့သစ်၊ မင်းဗာကြီးလမ်း၌ **'အောင်မြေသာစည် ပရိယတ္တိစာသင်တိုက်'** ဟူသော အမည်ဖြင့် စာသင်တိုက် တည်ထောင်ဖွင့်လှစ်၍ သာသနာပြုလုပ်ငန်းများကို စွမ်းစွမ်းတမံ ကြိုးစားအားထုတ်လျက် ရှိပါသည်။

၁၆. ၁၂. ၂၀၀၂ ခုနှစ်တွင် စတင်တည်ထောင်ဖွင့်လှစ်ခဲ့သော သံတွဲမြို့၊ ဒွါရာဝတီမြို့သစ်၊ မင်းဗာကြီးလမ်းရှိ **'အောင်သုခဓမ္မရိပ်သာ-အောင်မြေသာစည်တရားစခန်း'** ၏ ဦးစီးပဓာနနာယက ဆရာတော်တစ်ပါးအနေဖြင့် တာဝန်ယူကာ ဆောင်ရွက်လျက် ရှိပါသည်။

သံတွဲမြို့၊ **'ဒွါရာဝတီပရိယတ္တိသာသနာနုဂ္ဂဟစာမေးပွဲ'** ၌ ပုစ္ဆကတာဝန် (၁၉၉၃ ခုမှ ယနေ့အထိ)၊ **'အစိုးရပထမပြန်စာမေးပွဲ'** ၌ ကြီးကြပ်ရေးတာဝန် (၁၉၉၃ ခုမှ ယနေ့အထိ)၊ မြို့နယ်သံဃဝန်ဆောင်၊ မြို့နယ်သံဃနာယကအဖွဲ့ဝင် (ယခင်)၊ ရခိုင်ပြည်နယ်သံဃဝန်ဆောင် (ယခင်)၊ ယခု-ရခိုင်ပြည်နယ် သံဃနာယက တွဲဘက်အကျိုးတော်ဆောင်

စသော သာသနာ့တာဝန်များကို ထမ်းဆောင်လျက် ရှိသည်။

ယင်းကဲ့သို့ **'ပရိယတ်၊ ပဋိပတ်'** စသော သာသနာ့တာဝန်များကို ထမ်းရွက်ရင်း၊ တစ်ဖက်မှလည်း **'ဒွါရာဝတီ-အသျှင်ကုသလ၊ ငွေသဇင် (သံတွဲ)'** စသော ကလောင်အမည်တို့ဖြင့် တိုင်းနှင့်ပြည်နယ်ထုတ် **'စာစောင်၊ ဂျာနယ်၊ မဂ္ဂဇင်း'** များတွင် ဆောင်းပါး-စာတမ်းနှင့် ကဗျာများကို စဉ်ဆက်မပြတ်ရေးသားလျက် ရှိပါသည်။

**'ရခိုင်တိုင်းရင်းသားဘာသာစာပေပြုစုရေးအဖွဲ့'** တွင် အဖွဲ့ဝင်တစ်ဦးအနေဖြင့် ပါဝင်ဆောင်ရွက်ခဲ့သည်။

ယခင်က မင်းရွှေစင်၊ အသျှင်ကုသလ (သူဌေးချောင်း)၊ မြို့ပျံနန်း မှရဟန်းစာဆို၊ သံတွဲမြို့-အောင်မြေသာစည်ဆရာတော်၊ ငွေသဇင်(ဒွါရာ ဝတီ) စသော ကလောင်အမည်များဖြင့်လည်းကောင်း၊ ဆောင်းပါးနှင့် ကဗျာများကို ရေးသားခဲ့ပါသည်။

မြန်မာနိုင်ငံ **'စာပေနှင့် စာနယ်ဇင်းအဖွဲ့'** (ယခင်)၊ ယခု **'မြန်မာနိုင်ငံစာရေးဆရာအသင်း'** တွင် အဖွဲ့ဝင်စာရေးဆရာတစ်ဦးဖြစ်ပြီး၊ အဖွဲ့ဝင်အမှတ်မှာ **'၇၆၅၄'** ဖြစ်ပါသည်။ သံတွဲမြို့နယ်၊ **'စာပေနှင့် စာနယ်ဇင်းအဖွဲ့'** (ယခင်)၊ ယခု **'မြန်မာနိုင်ငံစာရေးဆရာအသင်း'** တွင် နာယကတာဝန်ကိုယူလျက် မြို့နယ်စာပေလုပ်ငန်းများကို တစ်တပ်တစ်အား သည်ပိုးဆောင်ရွက်လျက် ရှိသည်။

**ဖော်ပြပါရှိဖူးသော 'စာစောင်၊ ဂျာနယ်၊ မဂ္ဂဇင်း' များ**

(၁) ငွေတာရီမဂ္ဂဇင်း။ (၂) စစ်တွေဒီဂရီကောလိပ်မဂ္ဂဇင်း။





(၃) ဗုဒ္ဓဓမ္မလောကစာစောင်။ (၄) ဓမ္မဗျူဟာစာစောင်။ (၅) ရခိုင်မဂ္ဂဇင်း။ (၆) သံတွဲမြို့-မြို့မဝေဠုဝန်ဆရာတော် **'အတ္ထုပ္ပတ္တိစာစောင်'**။ (၇) ဧညဝတီပြက္ခဒိန်။ (၈) ရွှေသွေးဂျာနယ်။ (၉) ဓမ္မရုပ်စုံမဂ္ဂဇင်း။ (၁၀) မြစ်မခဓမ္မစာသဝဏ်။ (၁၁) စစ်တွေမြို့-မြို့မဆရာတော် **'အတ္ထုပ္ပတ္တိစာစောင်'**။ (၁၂) ကျောက်ဖြူမြို့-ယပ်လှဲကျောင်းတိုက် **'ငွေရတုမဂ္ဂဇင်း'**။ (၁၃) တောင်ကုတ်မြို့-ရိုးမလှိုင်းမဂ္ဂဇင်း။ (၁၄) သံတွဲမြို့-ဒွါရာဝတီမဂ္ဂဇင်း။ (၁၅) ရန်ကုန်တက္ကသိုလ်-ရခိုင်တန်ဆောင်မဂ္ဂဇင်း။ (၁၆) ရန်ကုန်မြို့-မင်္ဂလသုခကျောင်းတိုက်-တိုက်အုပ်ဆရာတော် **'အတ္ထုပ္ပတ္တိစာစောင်'**။ (၁၇) တောင်ကုတ်မြို့-ကံပိုင်မဟာဝိဟာရတိုက်ဆရာတော် **'အတ္ထုပ္ပတ္တိစာစောင်'**။ (၁၈) ဂွမြို့နယ်-ကမ်းသာယာမဂ္ဂဇင်း။ (၁၉) မင်းပြားမြို့နယ်-ကျိန်းရိပ်မြေမဂ္ဂဇင်း။ (၂၀) မြေပုံမြို့နယ်-ရတနာမြေပုံမဂ္ဂဇင်း။ (၂၁) ရန်ကုန်မြို့-မင်္ဂလသုခပါဠိတက္ကသိုလ်ကျောင်းတိုက် **'ရွှေရတုစာစောင်'**။ (၂၂) သံတွဲမြို့-မဟာဗောဓိစာသင်တိုက် **'အဂ္ဂပူဇာစာစောင်'**။ (၂၃) ကျောက်တော်မြို့-မုနိမြေမဂ္ဂဇင်း။ (၂၄) ဂွမြို့နယ်-ကျိန္တလီလယ်တီတောင်ပေါ်ကျောင်း ပရိယတ္တိစာသင်တိုက် **'ဂုဏဝိသိဋ္ဌပူဇာစာစောင်'**။ (၂၅) သံတွဲမြို့-အောင်မြေသာစည်ပရိယတ္တိစာသင်တိုက်၏ **'နှစ်လည်ပို့စကတ်'** များ။ (၂၆) လက်ကမ်းစာစောင် (ဆောင်းပါး၊ စာညွှန့်) အမျိုးမျိုး။ (၂၇) သံတွဲမြို့-ပုလဲရတနာပရိယတ္တိစာသင်တိုက်၏ **'သုတဝေဖြောပုလဲရတနာစာစောင်'**။ (၂၈) စစ်တွေမြို့-နန္ဒာရာမပရိယတ္တိစာသင်တိုက်၏ **'ငွေရတုစာစောင်'**။ (၂၉) သံတွဲမြို့-တက္ကသိုလ်နန္ဒမိတ်ကျောက်စာတိုင်စိုက်ထူပွဲ **'အမှတ်တရစာစောင်'**။ (၃၀) ဓမ္မရံသီဓမ္မမဂ္ဂဇင်း။ (၃၁) ဓမ္မရတနာဓမ္မမဂ္ဂဇင်း။ (၃၂) မြတ်ပန်း

ရဂုံဓမ္မမဂ္ဂဇင်း။ (၃၃) ဒို့ကျေးရွာဂျာနယ်။ (၃၄) ရောင်ပြန်မဂ္ဂဇင်း။ (၃၅) ရမ်းဗြဲမြို့နယ်-လေးတောင်မဂ္ဂဇင်း။ (၃၆) ကေတုမတီတောင်ငူမဂ္ဂဇင်း (မြကေတုအထူးထုတ်)။ (၃၇) သံတွဲမြို့-ခမောင်းတုန်းဆရာတော် အရှင်ဉာဏိက၏ **'ဂုဏပူဇာစာစောင်'**။ (၃၈) ကျောက်ဖြူမြို့တည်-အနှစ်(၁၈၀)ပြည့် အထိမ်းအမှတ်မဂ္ဂဇင်း။ (၃၉) နိုင်ငံ့ဂုဏ်ရည်မဂ္ဂဇင်း။ (၄၀) ထင်ရှားသော ဆရာတော်ကြီးများ၏ ဆောင်ပုဒ်လင်္ကာများ (သာ-ထွန်း-ပြန့် ဦးစီး၌ာန၊ ကမ္ဘာအေး)။ (၄၁) မနုစာရီ ဂမ္ဘီရသုတရသမဂ္ဂဇင်း။ (၄၂) ပြစ်မှုမဂ္ဂဇင်း။ (၄၃) ရွှေတိဂုံစေတီတော် စနေထောင့် ရခိုင်တန်ဆောင်း နှစ်(၁၀၀)ပြည့် ၁၉၁၁-၂၀၁၁ မဂ္ဂဇင်း။ (၄၄) ပိတောက်နွယ်မဂ္ဂဇင်း။ (၄၅) ရန်ကုန်ခရီးသွားဂျာနယ်။ (၄၆) မြောက်ဦးမဂ္ဂဇင်း။ (၄၇) ကေတုမတီမြို့တည်နန်းတည် နှစ်(၅၀၀)ပြည့် အထိမ်းအမှတ် **'ကေတုမတီမဂ္ဂဇင်း'** ၂၀၁၀ ပြည့်နှစ်။ (၄၈) မာန်အောင်မြို့ **'မေဃဝတီမဂ္ဂဇင်း'**။ (၄၉) ကျောက်ဆည်မြို့ **'ပန်းလွင်ပြင်ရသစုံမဂ္ဂဇင်း'**။ (၅၀) APRIL Star **'စိတ်ကြွကြယ်ခရီးသွားမဂ္ဂဇင်း'**။ (၅၁) မင်းပြားမြို့နယ်-ကံဖေတိုက်နယ်-ဗုဒ္ဓဘာသာယဉ်ကျေးမှုစာမေးပွဲ **'တိုးတက်အောင်မြင်စာပွဲသဘင်မှတ်တမ်း'**။ (၅၂) ရန်ကုန်မြို့-**'ရခိုင်သဟာယမဂ္ဂဇင်း'** အမှတ်(၉) နှစ်(၅၀)ရွှေရတုအထူးထုတ်။ (၅၃) ကျောက်ဖြူမြို့-**'ရွှေကျွန်းသန္တာမဂ္ဂဇင်း'**။ ရန်ကုန်မြို့-မြတ်ပန်းသဇင်မဂ္ဂဇင်း။ (၅၅) အိန္ဒိယနိုင်ငံ-ယူပီပြည်နယ်-ကုသိနာရုံမြို့-မြန်မာဘုန်းတော်ကြီးကျောင်းတိုက်ဆရာတော် ဘဒ္ဒန္တဉာဏိဿရ အရှင်သူမြတ်၏ **'စိန်ရတုမွေးနေ့မော်ကွန်းစာအုပ်'**။ (၅၆) ဝံသရက္ခိတမဂ္ဂဇင်း။ (၅၇) အလင်းသစ်မဂ္ဂဇင်း။ (၅၈) မောင်တောခရိုင်-ပစ္ဆိမရပ်ဝန်းမဂ္ဂဇင်း။

အောင်မြေသာစည်



(၅၉)ကမ္ဘာအေး **'သာထွန်းပြန့်ဓမ္မစာစောင်'**။ (၆၀) အိန္ဒိယနိုင်ငံ၊ **'အသျှင်စန္ဒြိမဏိကျောင်းသားများ သာရေးနာရေးအသင်း'** မှထုတ်ဝေသော **'မဇ္ဈိမတံခွန်မဂ္ဂဇင်း'**။ (၆၁) ရန်ကုန်မြို့ **'တော်ဝင်ပန်း အနုပညာဂျာနယ်'**။ (၆၂) ဇော်မင်းထွန်း(သံတွဲ)စီစဉ်သည့် **'အနုအလှသမုဒယရပ်ဝန်း'** အချစ်ကဗျာများစာအုပ်။ (၆၃) အသျှင်စက္ကိန္ဒ (၇၅)နှစ်ပြည့် အထိမ်းအမှတ်စာတမ်းစုစည်းမှုစာအုပ်။ (၆၄) တောင်ကုတ်မြို့၊ အထက်တန်းကျောင်း၊ နှစ်(၅၀)ပြည့်အထိမ်းအမှတ် **"ရွှေရတုမဂ္ဂဇင်း'** ၁၉၆၃-၂၀၁၃ ခုနှစ်။ (၆၅) CUSTOMS MAGAZINE ၂၀၁၃ ခု။ (၆၆) သံတွဲခရိုင်၊ ၂၀၁၂ ခု၊ ပထမအကြိမ်၊ ကဗျာပြပွဲကဗျာများစာအုပ်၊ ၂၀၁၃ ခု။ (၆၇) ပုဏ္ဏားကျွန်းမြို့၊ အောင်မင်္ဂလာပရိယတ္တိစာသင်တိုက်ဆရာတော် ဘဒ္ဒန္တရာဇိန္ဒမထေရ်၏ **'တစ်ဘဝသာသနာပြု အထိမ်းအမှတ်စာစောင်'**။ (၆၈) မင်းလွင်(ကျောက်ကလေ)စီစဉ်သည့် **'ရက္ခိတပွဲတင်သံ(၁)'**၊ ၂၀၁၃ ခု။ (၆၉) ရမ်းဗြဲမြို့ **'ရမ္မာဝတီမဂ္ဂဇင်း'**။ (၇၀) နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်) **'နှစ်လည်မဂ္ဂဇင်း'**။ (၇၁) စစ်တွေတက္ကသိုလ် **'နှစ်လည်မဂ္ဂဇင်း'**။ (၇၂) မြဝတီမဂ္ဂဇင်း။

## ပုံနှိပ်ထုတ်ဝေပြီးစာအုပ်များ

| | |
|---|---|
| ၁။ သဇင်ပန်းတို့ လန်းရာမြေ | [ ၅၉/၂၀၀၃ (၁၁) ] |
| ၂။ ရခိုင့်တစ်ဆယ့်နှစ်လရာသီ | [ ၄၃/၂၀၀၄ (၇) ] |
| ၃။ ဘဝလောကခံလှိုင်းခတ်သံ | [ ၄၂၀၀၂၀၅၀၆ ] |
| ၄။ အားသစ်နဲ့မာန်ချီ | [ ၄၂၀၀၇၂၀၅၁၂ ] |

အောင်မြေသာစည်

၅။ သိဂီလောဝါဒဆုံးမစာ [ ၄၂၀၀၅၁၀၆၁၀ ]
၆။ လူစွမ်းလူစ [ ၄၂၀၀ ၂၁၀၄၀၇ ]
၇။ ရခိုင့်ဌာနီလရာသီကျမ်း [ ၄၀၀၅၆၇၀၅၀၈ ]
၈။ ငြိမ်းအေးမှုဓမ္မရသ [ ၄၂၀၀၁၈၀၄၀၉ ]
၉။ ဟိုဘက်ခြံကအသံများ [ ၄၂၀၀၅၆၀၉၀၉ ]
၁၀။ အိုမနုဿ စိတ်ဓာတ်မကျနဲ့ [ ၄၂၀၀၈၁၀၉၁၀ ]
၁၁။ အောင်မြေသာစည်ဝတ်ရွတ်စဉ်နှင့်
    ၃၈-ဖြာ မင်္ဂလာလေးချိုး [ ၃၀၀၁၃၆၀၄၁၁ ]
၁၂။ ရခိုင်လူမျိုးနှင့် မြန်မာစာ ၂၀၁၂ ခု၊ မေ(ပ-ကြိမ်)
    ။ ၂၀၁၃ ခု၊ မတ်၊(ဒု-ကြိမ်)
၁၃။ ကဗျာ့ဥယျာဉ်အလင်္ကာကျမ်း ၂၀၁၃ ခု၊ ဧပြီလ။

အောင်မြေသာစည်



## (ကျမ်းကိုးစာရင်း)


၁။ ဓညဝတီအရေးတော်ပုံကျမ်း။ ။ အသျှင်ကဝိသာရမထေရ်။
(မြန်မာမင်းများအရေးတော်ပုံ၊ နံ့သာတိုက်၊ ၁၉၆၇-ခု)
၂။ ရခိုင်ရာဇဝင်သစ်ကျမ်း၊ ဒုတိယတွဲ။ ။ အသျှင်စန္ဒမာလာ။
(ဒုတိယအကြိမ်၊ ရခိုင်သားကြီးစာပေ၊ ၁၉၉၇-ခု)
၃။ သာသနာလင်္ကာရစာတမ်း။ ။ မဟာဓမ္မသင်္ကြံအမတ်။
(ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၉၅၆-ခု)
၄။ ဝံသဒီပနီ။
၅။ သာသနဗဟုဿုတ ပကာသနီ။ ။ ဘုရားဖြူ-အသျှင်ရာဇိန္ဒ။
(အသိုင်းအဝိုင်းစာပေ၊ ရန်ကုန်၊ ၁၉၉၃-ခု)
၆။ ပါရာဇိက ကဏ္ဍအဋ္ဌကထာ၊ ပထမအုပ်။ ။ အသျှင်မဟာဗုဒ္ဓဃောသ။
(ဆဋ္ဌမူ၊ ကမ္ဘာအေး၊ ရန်ကုန်။)
၇။ ကျောင်းသုံးမြန်မာရာဇဝင်။ ။ ဦးဘသန်း (BA)
(ကဋ္ဌာသယပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၉၆၄-ခု)
၈။ အာနန္ဒစန္ဒြရှစ်ရာစုရခိုင်ဝေသာလီမင်း။ ။ ဦးစံသာအောင်။
(တက္ကသိုလ်များစာအုပ်ပြုစုထုတ်ဝေရေးကော်မတီ၊ ရန်ကုန်၊ ၁၉၇၅-ခု)
၉။ မြောက်ဦးခေတ်ရှိ ရခိုင်ရှေးဟောင်းပိဋကတ်တိုက်များ။ ။ စောထွီးသျှင်
(ရခိုင်မြို့)
(စစ်တွေဒီဂရီကောလိပ်မဂ္ဂဇင်း၊ ၁၉၉၂-ခု)


အောင်မြေသာစည်

၁၀။ သာသနာတော်သက္ကရာဇ်နှင့်ပတ်သက်၍ သုတေသီတို့၏အယူအဆများ။ ။ ဦးအောင်သာဦး။
(ရခိုင်သုတစာအုပ်၊ ရခိုင်သားကြီးစာပေ၊ ၂၀၀၂-ခု)

၁၁။ ရခိုင်မှ သီရိလင်္ကာသို့ နောက်ဆုံးသာသနာပြုခရီး။ ။ ဆရာချစ် (စစ်တွေ)
(ရခိုင်သုတစာအုပ်၊ ရခိုင်သားကြီးစာပေ၊ ၂၀၀၂-ခု)

၁၂။ ဆဋ္ဌသင်္ဂါယနာ မဟာဓမ္မသဘင်။ ။ ဒေါက်တာမြတ်မြတ်ထွန်း။
(၂၀၀၇-ခု၊ အောက်တိုဘာလထုတ်)

၁၃။ ပဥ္စမသင်္ဂါယနာတင်မော်ကွန်းစာ။ ။ ဦးမုနိဓဇ (မြောက်ဦး)။
(ရခိုင်မဂ္ဂဇင်းအမှတ် (၇)၊ ၁၉၈၃-ခု)

၁၄။ ရက္ခပူရဒွါဒသရာသိဋီကာကျမ်း။ ။ ဒွါရာဝတီ-အသျှင်ကုသလ။
(ရှုဝံပုံနှိပ်တိုက်၊ ရန်ကုန်၊ ၂၀၀၈-ခု)

၁၅။ သင်္ဂါယနာတင်သမိုင်းကြောင်း။ ။ ဒွါရာဝတီ-အသျှင်ကုသလ။
(ရိုးမလှိုင်း-တောင်ကုတ်မဂ္ဂဇင်း၊ အမှတ်-၄၊ ၂၀၀၉-ခု)

၁၆။ ရခိုင်ညွှန့်ဖူးမြို့မြောက်ဦး။ ။ မင်းပြားမင်းသိန်းဇံ။
(သင်းစာပေ၊ ရန်ကုန်၊ ၂၀၁၁-ခု)

၁၇။ ရခိုင်ဝေါဟာရအဘိဓာန်ကျမ်း၊ အတွဲ(၄)။ ။ နတ်မြစ်အသျှင်ဝါသဝ
(ပန်းဝေဝေစာပေ၊ ရန်ကုန်၊ ၂၀၁၃-ခု)

၁၈။ စာရေးသူ၏ ကွင်းဆင်းလေ့လာမှု။
(၂၀၀၇-ခုနှစ်၊ ဒီဇင်ဘာလနှင့် ဇန်နဝါရီလ၊ စာပေသုတေသနခရီး)

၁၉။ ပြည်နယ်ဖြစ်စဉ်သမိုင်း၊ ပဥ္စမတွဲ။
ရခိုင်ပြည်နယ် ပြည်သူ့ကောင်စီ။
အောင်မြေသာစည်



အောင်မြေသာစည် စာစဉ် (၇)

သံတွဲမြို့

အောင်မြေသာစည်ဆရာတော်

# ဒွါရာဝတီ–အရှင်ကုသလ(ငွေသဇင်)

စီရင်ရေးသားအပ်သော

# ရက္ခပူရ ဒွါဒသရာသိ ဋီကာ

အမည်ရှိ

# ရခိုင်ဒွာဒ လင်္ကာသိကျမ်



ထွက်ပြီ။

အောင်မြေသာစည်စာပေ
မင်းဗာကြီးလမ်း၊သံတွဲမြို့

## ဝေသာလီဘုရင် ဒွေဝ်စန္ဒြားသို့

ဝေသာလီ နေတစ်ခေတ်ဆီသို့
ပေစာစီ ရွှေကညစ်ရယ်နဲ့
ဖွေလှစ်ကာ စာပန်းချီချဲ့ရင်ဖြင့်
သီဖွဲ့၍ ဘယ်မကုန်။

ဝေသာလီဘုရင် ဒွေဝ်စန္ဒြားမှာလ
ဘုန်း-အား ထိန်ထိန်ဖြာခဲ့
ဝတ်မှာ နတ်သိကြားလိုပ
မြတ်ဘုရား သာသနာကိုဖြင့်
စေတနာ သဒ္ဓါတိုးပါလို့
ပြည်ရွာမှာ ဘာသာမညှိုးရအောင်
ယေဓမ္မာ ဂါထာထိုးတဲ့ပြင်
အမျိုးဂုဏ် ဇမ္ဗူမှာကျူးရင့်စေဖို့
စတူပါ စေတီထူးကိုဖြင့်
ဖြန့်ဖြူးခဲ့ပုံ။

ဘုရား,ပုထိုး ဂူရုံတွေပေါ်တဲ့ပြင်
ဆူညံဝေ ခေါင်းလောင်းသံမပြတ်ပေဘု
ကျောင်း,ကန်,ဇရပ် ပေစာတိုက်တွေကလည်းအုံ့ပေစွ
ဝေဖြာလိုက်ပါဘိ ထေရ်သံဃာစုံ
ဝေသာလီပုံရဲ့ ရှုမြင်ခန်း။

ယဉ်ကျေးမှု တုမယှဉ်သာပ့ါ
အနုပညာ ပြည်မဆံ့တာကြောင့်
ဝေဖြန့်ကာ စေတနာလှိုင်ခဲ့
ပြည်တကာ နိုင်ငံအများရယ်က
ဆန်စပါး ဥစ္စာအဖုံဖုံနဲ့
ကုန်မျိုးစုံ ဆက်သွယ်ကြတဲ့ပြင်
ရောင်းဝယ်သူ နောက်ပြည်သားတွေနဲ့
ကျောက်လှေကား နာမည်ကျော်ခဲ့
ရာသီပေါ် ပွဲတော်မလပ်ငဲ့ပြင်
ကျော်ထပ်တဲ့ ဝေသာလီမို့
ပြည်ရွာတည် ဘုရင်ထူးကိုလ
ဦးညွှတ်လို့မှန်း။ ။

ငွေသဇင် (သံတွဲ)
ရခိုင်မဂ္ဂဇင်း ဝေသာလီအထူးထုတ်
အမှတ်-၁၇/၁၉၉၅-ခု။

KMT

http://arakanindobhasa.blogspot.com/

## ရက္ခမဏ္ဍိုင်

အမျိုးဂုဏ်ရောင်၊ နေတန်ဆောင်သို့
ထွန်းပြောင်အလှ၊ ရက္ခမဏ္ဍိုင်
ရခိုင်လူမျိုး၊ ကိုးသည့်ဗုဒ္ဓ
ထွန်းပသာသနာ၊ သင်္ဂါတင့်ဆန်း
ပွင့်လန်းစာပေ၊ ရှေးမှေ့ထိန်းသိမ်း
မတိမ်းအယူ၊ အလှူဒါန
သီလ,ဘာဝနာ၊ သုံးဖြာသဒ္ဓမ္မ
နေ့-ညမပြတ်၊ မလပ်အားထုတ်
ကြိုးကုတ်စီးပွား၊ စိတ်ထားဖြူစင်
မှန်လျှင်မှန်ကြောင်း၊ မကောင်းဘွင်းဘွင်း
ရိုးစင်းစကား၊ ဝါကြွားမညစ်
ကောက်ကျစ်မပြု၊ ယခုထက်တိုင်
ရခိုင်တို့သွေး၊ ရဲတွေးနိုတ်ျာ
သံထက်မာသည်၊
ကမ္ဘာတည်သရွေ့ရှိမည်တည်း။ ။

ငွေသဖင်(သံတွဲ)
၃-၂-၂၀၀၀



အောင်မြေသာစည်စာစဉ်(၁၄)

သံတွဲမြို့ အောင်မြေသာစည်ဆရာတော်
ဓညာဝတီ – အသျှင်ကုသလ
(ငွေသဖင်)

စီရင်ရေးသားအပ်သော

# ရခိုင်တို့၏ ပဌမသင်္ဂါယနာတင် သမိုင်း

http://arakanindobhasaa.blogspot.com/